ရက်စွဲ၊ ၂၀၁၇ ခုနှစ် စက်တင်ဘာလ၂၇ ရက်

အကြောင်းအရာ။ **အတည်ပြုမိန့် ထုတ်ပေးခဲ့သည့် ကုမ္ပဏီစာရင်း ပေးပို့ခြင်း**

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၉ ရက်နေ့တွင် ကျင်းပသော (၁၂/၂၀၁၇) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ အတည်ပြုမိန့် ထုတ်ပေးခဲ့သည့် Myat Thura Industry Company Limited(မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီလီမိတက်) ၏ အတည်ပြုမိန့် အမှတ်- ၀၅၂/၂၀၁၇ (၁၄-၉-၂၀၁၇)၏ အတည်ပြုမိန့် နှင့် ဆုံးဖြတ်ချက်တို့အား ပေးပို့ပါသည်။

(လင်းထွဋ်)

ညွှန်ကြားရေးမှူး

ဖြန့်ဝေခြင်း

ညွှန်ကြားရေးမှူးချုပ်ရုံးခန်း

ဒုတိယညွှန်ကြားရေးမှူးချုပ်(၁)ရုံးခန်း

ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကြီးကြပ်ရေးဌာနခွဲ

စီမံကိန်းနှင့်စာရင်းအင်းဌာနခွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ် ၀၅၂ / ၂၀၁၇ ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၁၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၂၅ ပုဒ်မခွဲ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးသန်းရှိန်

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-၆/၃၀၅/၃၀၇၊ ညောင်တန်းအိမ်ရာ၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ -

(၅) ဖွဲ့စည်းရာအရပ် -

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ရေးမြို့နှင့် ပတ်ဝန်းကျင်ကျေးရွာများသို့ HFO/ HFD လောင်စာဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မွန်ပြည်နယ်၊ ရေးမြို့နယ်၊ ဒူးယားကျေးရွာအုပ်စု၊ အစင်ကျေးရွာ၊ မဲပိုင်ကွင်း၊ ကွင်းအမှတ်- ၁၁၅၇ ရှိမြေ ၁.၄၈ ဧက

(၈) နိုင်ငံခြားမတည်ငွေရင်း ပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၉,၄၅၇.၅၆ သန်း (အမေရိကန်ဒေါ်လာ ၄.၃၃ သန်း အပါအဝင်စုစုပေါင်းကျပ် ကိုးထောင်လေးရာ ငါးဆယ့် ခုနစ်သန်း နှင့် ငါးသိန်းခြောက်သောင်းတိတိ )

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၁ နှစ်

(၁၂) အတည်ပြုမိန့်သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည် Myat Thura Industry Company Limited (မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီလီမိတက်)

14.9.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စာအမှတ် ၄၂၅-ဃ
ရက်စွဲ ၁၄.၉.၂၀၁၇
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(လ)/အ-၀၀၁/၂၀၁၇(၄၂၅-ဃ)

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၁၄ ရက်

အကြောင်းအရာ။ **Myat Thura Industry Company Limited(မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီလီမိတက်)၏ ရေးမြို့နှင့် ပတ်ဝန်းကျင် ကျေးရွာများသို့ HFO/ HFD လောင်စာဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအတည်ပြုမိန့်အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Myat Thura Industry Company Limited(မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီလီမိတက်) ၏ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၁၅ ရက်စွဲပါတင်ပြစာ

၁။ Myat Thura Industry Company Limited(မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီလီမိတက်) မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ ဒူးယားကျေးရွာအုပ်စု၊ အစင်ကျေးရွာ၊ မဲပိုင်ကွင်း၊ ကွင်းအမှတ်-၁၁၅၇ ရှိမြေ ၁.၄၈ ဧကတွင် ရေးမြို့နှင့် ပတ်ဝန်းကျင် ကျေးရွာများသို့ HFO/ HFD လောင်စာဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၉ ရက်နေ့တွင်ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂/၂၀၁၇)ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် မြတ်သူရ စက်မှုလက်မှုကုမ္ပဏီလီမိတက်အား ရေးမြို့နှင့် ပတ်ဝန်းကျင် ကျေးရွာများသို့ HFO/ HFD လောင်စာဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ၀၅၂/၂၀၁၇ကို ထုတ်ပေးလိုက်သည်။

၂။ Myat Thura Industry Company Limited(မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Myat Thura Industry Company Limited(မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီလီမိတက်)အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၈) ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ

ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Myat Thura Industry Company Limited( မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီ လီမိတက်)သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဂ) Myat Thura Industry Company Limited(မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီ လီမိတက်)အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ နှင့် နည်း ဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Myat Thura Industry Company Limited(မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(င) Myat Thura Industry Company Limited(မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီ လီမိတက်)သည်ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်း ကာလအတွင်း အခြား ပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်း နှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(စ) Myat Thura Industry Company Limited(မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီလီမိတက်)သည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက် (ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Myat Thura Industry Company Limited(မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီ လီမိတက်)သည်မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း

ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Myat Thura Industry Company Limited(မြတ်သူရစက်မှုလက်မှုကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ် ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာ ဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည် ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏သတ်မှတ်ချက် များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

14.9.17

(ကျော်ဝင်း)

ဥက္ကဋ္ဌ

ဖြန့်ဝေခြင်း

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ပြည်နယ်ဦးစီးမှူးရုံး၊ မွန်ပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
Myat Thura Industry Company Limited (မြတ်သူရစက်မှုလက်မှုကုမ္ပဏီလီမိတက်)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၂/န-ထွေ/၂၀၁၇ ( ၆၅၉ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၄ ရက်

### မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
### တင်ပြသည့်အတည်ပြုခွင့်ပြုချက်ဖြင့်ဆောင်ရွက်မည့်လုပ်ငန်းများအမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုမိန့် ထုတ်ပေးခွင့်ပြုပါရန်ကိစ္စ**

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ (၃၇)အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုချက် တင်ပြလျှောက်ထားလာသည့် ကဏ္ဍအလိုက် အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ကဏ္ဍများ | အရေအတွက် |
|---|---|---|
| (က) | စက်မှုကဏ္ဍ | ၈ |
| (ခ) | အခြားဝန်ဆောင်မှုကဏ္ဍ | ၄ |
| (ဂ) | လျှပ်စစ်ကဏ္ဍ | ၁ |
| စုစုပေါင်း | | ၁၃ |

၂။ အတည်ပြုတင်ပြချက်များအရ စက်မှုကဏ္ဍမှ လုပ်ငန်း (၈)ခု၊ အခြားဝန်ဆောင်မှုကဏ္ဍ မှ လုပ်ငန်း (၄)ခု နှင့်လျှပ်စစ်ကဏ္ဍမှ လုပ်ငန်း(၁) ဖြစ်ပြီး လုပ်ငန်းများ၏ အဓိကအချက်အလက်များအား တင်ပြအပ်ပါသည်-

| ကုမ္ပဏီအမည် | တည်နေရာ | စုစုပေါင်း မတည်ငွေရင်း | | လုပ်ငန်း အမျိုးအစား | လုပ်သား အင်အား | မြေငှားရမ်း ကာလ |
|---|---|---|---|---|---|---|
| | | US$ (သန်း) | ကျပ် (သန်း) | | | |
| Ngwe Pyi Kyaw Company Limited | မြေကွက်အမှတ် (ဃ-၆/၂)၊ကွင်းအမှတ်-၇၈၃/ တောင်ညို အနောက်နှင့် ၇၈၄/ လင်မလို ရွှေကူ၊ပတ္တမြား စက်မှုဇုန်၊ စစ်ကိုင်းမြို့နယ်၊စစ်ကိုင်းခရိုင်၊စစ်ကိုင်း | | ၆၀၀ | သစ်အခြေခံစက်မှု လုပ်ငန်း(သစ်ခွဲသားနှင့် သစ်အချောထည် လုပ်ငန်း) | ၇၇ဦး ပြည်ပဝန်ထမ်း ခန့်အပ်ခြင်း မရှိ။ | |

| ကုမ္ပဏီအမည် | တည်နေရာ | စုစုပေါင်း မတည်ငွေရင်း | | လုပ်ငန်း အမျိုးအစား | လုပ်သား အင်အား | မြေငှားရမ်း ကာလ |
|---|---|---|---|---|---|---|
| | | US$ (သန်း) | ကျပ် (သန်း) | | | |
| | တိုင်းဒေသကြီး | | | | | |
| ဇမ္ဗူလွှမ်း ကုမ္ပဏီ လီမိတက် | မြေကွက်အမှတ်-၇၊ စက်မှုဇုန်(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | | ၄၈၈၆.၄၆ | သစ်ပါးလွှာ၊ အထပ်သား၊ သစ်ခွဲသားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချ ဖြန့်ဖြူးသည့် လုပ် ငန်း | ၃၃၀ ဦး ပြည်တွင်း ၃၃၀ ဦး ပြည်ပ၄ ဦး (သင်တန်း ပေးရန် အတွက်သာ) | ကနဦး ၅၀နှစ် နှင့် ၁၀ နှစ် (၂) ကြိမ် |
| Southland Myanmar Rubber Company Limited | မြေကွက်အမှတ်-(၁၅/၁၆)၊ သီလဝါ စက်မှုဇုန်၊သန်လျင်-ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | ၅.၀၀ | | သဘာဝ ရာဘာများ အားအဆင့်မြှင့်တင် ရောစပ်ထုတ်လုပ် ခြင်း လုပ်ငန်း | ၇၁ ဦး ပြည်တွင်း ၆၉ဦး ပြည်ပ ၂ ဦး | ကနဦး ၃၀ နှစ် နှင့် ၁၀ နှစ် (၂) ကြိမ် |
| Dong Yu Garment Company Limited | မြေကွက်အမှတ်-၄၅၉၊ မြေတိုင်းရပ်ကွက် အမှတ်-၂၅၊ ရွှေလင်ပန်းစက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | ၁.၇၀၆ | | CMPစနစ်ဖြင့် အဝတ် အထည် အမျိုးမျိုးချုပ် ခြင်း လုပ်ငန်း | ၄၇၅ဦး ပြည်တွင်း ၄၅၅ဦး ပြည်ပ ၂၀ဦး | ကနဦး ၁၀နှစ် နှင့် ၅ နှစ် (၁) ကြိမ် |
| ပလက်ဒီကို လီမိတက် (PLADCO Limited) | မြေကွက်အမှတ်-၅၉၊ စက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | | ၅၂၀၀ (US $ ၃.၆၆၃ သန်း အပါ အဝင်) | ပလတ်စတစ်ထုတ်ကုန် ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်း | ၁၀၀ဦး | |

| ကုမ္ပဏီအမည် | တည်နေရာ | စုစုပေါင်း မတည်ငွေရင်း | | လုပ်ငန်း အမျိုးအစား | လုပ်သား အင်အား | မြေငှားရမ်း ကာလ |
|---|---|---|---|---|---|---|
| | | US$ (သန်း) | ကျပ် (သန်း) | | | |
| Xing Jia (Myanmar) Shoes Co.,Ltd. | မြေကွက်အမှတ်-၅၄၊ မြေတိုင်းရပ်ကွက် အမှတ်-ဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | ၂.၀၀ | | CMPစနစ်ဖြင့် ဖိနပ် အမျိုးမျိုးချုပ်ခြင်း လုပ်ငန်း | ၄၉၉ဦး ပြည်တွင်း ၄၈၉ဦး ပြည်ပ ၁၀ဦး | ၈နှစ် |
| Dong Htun Zin Steel Industrial Co.,Ltd. | မြေကွက်အမှတ်-၈၉၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | ၁၄.၁၆ | | ဆောက်လုပ်ရေး လုပ်ငန်းသုံးသံနှင့် သံမဏိပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း | ၉၆ဦး ပြည်တွင်း ၈၁ဦး ပြည်ပ ၁၅ ဦး | ကနဦး ၅၀နှစ် နှင့် ၁၀ နှစ် (၂) ကြိမ် |
| Hong Ri (Myanmar) Company Limited | မြေကွက် အမှတ်-၁၃၄၊ မြေတိုင်း ရပ်ကွက် အမှတ်-၂၅၊ ရွှေလင်ပန်း စက်မှုမြို့၊လှိုင်သာ ယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | ၁.၆၀၀ | | CMPစနစ်ဖြင့် လက် ကိုင်အိတ် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း | ၈၆၃ဦး ၈၄၅ဦး ပြည်ပ ၁၈ | ကနဦး ၅ နှစ် (သက် တမ်းတိုး ၂နှစ်၅လ နှစ်ကြိမ်) |
| Nautical Ace Co., Ltd | မြေကွက်အမှတ် (၁၂-ဘီ၊ ၁၂-အီး/၁ နှင့် ၁၂-အီး/၂)၊ မြေ တိုင်းရပ်ကွက် အမှတ်-၃၅ဘီ၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | ၃၅.၀၀ | | ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း | ၁၀၉ဦး ပြည်တွင်း ၁၀၆ ဦး ပြည်ပ ၃ ဦး | ကနဦး ၅၀ နှစ် သက် တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| Smooth Way Development | မြေကွက်အမှတ်- ၂၃၅/၂၃၇၊မြေတိုင်း ရပ်ကွက် အမှတ်- | ၁၂.၀၀ | | ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း | ၁၅၄ဦး ပြည်တွင်း ၁၅၂ ဦး | ကနဦး ၅၀ နှစ် သက် တမ်းတိုး |

| ကုမ္ပဏီအမည် | တည်နေရာ | စုစုပေါင်း မတည်ငွေရင်း | | လုပ်ငန်း အမျိုးအစား | လုပ်သား အင်အား | မြေငှားရမ်း ကာလ |
|---|---|---|---|---|---|---|
| | | US$ (သန်း) | ကျပ် (သန်း) | | | |
| Co., Ltd. | ၂၃K၊ အောက်ကြည့်မြင်တိုင်လမ်း၊ စောရန်ပိုင် တောင်ရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | | | | ပြည်ပ၂ဦး | ၁၀နှစ်၂ကြိမ် |
| Paradison Cinemas Co.,Ltd. | ဦးပိုင်အမှတ် ၇၀ (င)၊ ကွင်းအမှတ် (၇၈)၊ကွင်းရပ်ကွင်း၊ကွင်းရပ်ရပ်ကွက်၊ မော်လမြိုင်မြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ် | ၀.၅၃ | | ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း လုပ်ငန်း ( Construction of Cinemas and Operation of Movies Show) | ၁၄ဦး ပြည်ပဝန်ထမ်း ခန့်အပ်ခြင်း မရှိ။ | ၁၀ နှစ် |
| Paradison Cinemas Co.,Ltd. | ဦးပိုင်အမှတ် ၆၂၊ အကွက်အမှတ် ၁၃၊ ချမ်းအေးအရှေ့၊ ရွှေချီရပ်ကွက်၊ ပျဉ်မနားမြို့နယ်၊ ရမည်းသင်းခရိုင်၊ မန္တလေးတိုင်းဒေသကြီး | ၀.၅၃ | | ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show) | ၁၄ဦး ပြည်ပဝန်ထမ်း ခန့်အပ်ခြင်း မရှိ။ | ၁၀ နှစ် |
| မြတ်သူရစက်မှုလက်မှုကုမ္ပဏီလီမိတက် | မွန်ပြည်နယ်၊ရေးမြို့နယ်၊ဒူးယားကျေးရွာအုပ်စု၊ အစင်ကျေးရွာ၊ မဲပိုင်ကွင်း၊ကွင်းအမှတ်- ၁၁၅၇ ရှိ ကုမ္ပဏီပိုင်မြေ ၁.၄၈ ဧက | | ၉၄၅၇.၅၆ | ရေးမြို့နှင့် ပတ်ဝန်းကျင်ကျေးရွာများသို့ HFO/HFD လောင်စာဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း | ၈၂ဦး ပြည်ပဝန်ထမ်း ခန့်အပ်ခြင်း မရှိ။ | |

၃။ အဆိုပါ အတည်ပြုလျှောက်ထားလာမှုများအပေါ် သက်ဆိုင်ရာ ဝန်ကြီးဌာနများ၊ တိုင်းဒေသကြီး/ ပြည်နယ်အစိုးရများ၏ အတည်ပြုချက်များ ရရှိထားပြီးဖြစ်သည့်အပြင် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ နှင့် သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံမှု ဌာနခွဲများမှလည်း ဥပဒေ၊ နည်းဥပဒေများနှင့်အညီ စိစစ်ထားပြီး ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၄။ အဆိုပါလုပ်ငန်းများအပေါ် အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုတင်ပြလာသည့် လုပ်ငန်းပေါင်း (၁၃)ခုမှ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏ မှာ အမေရိကန်ဒေါ်လာ ၇၂.၅၂၆ သန်း နှင့် ကျပ် ၂၀၁၄၄.၀၂ သန်းရှိပြီး အလုပ် အကိုင် အခွင့်အလမ်းအနေဖြင့် ပြည်တွင်း (၂၈၁၄)ဦး နှင့် ပြည်ပ (၇၀)ဦးကို ဖန်တီးနိုင်မည်ဖြစ်ပါသည်။

(ခ) တင်ပြထားသော လုပ်ငန်းများအနက် ရင်းနှီးမြှုပ်နှံမှုဦးစားပေးမြှင့်တင်မည့် ကဏ္ဍ တွင် ပါဝင်သော လုပ်ငန်းများသည် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို ဤကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၀/၂၀၁၇ တွင် သတ်မှတ်ထားသည့် ဇုန်အမျိုးအစား ပေါ် မူတည်၍ လျှောက်ထားနိုင်မည် ဖြစ်ပါသည်။

(ဂ) အတည်ပြုတင်ပြချက် (၁၃)ခု အနက် ဇုန်(၂)တွင် ပါဝင်သည့် လုပ်ငန်း (၃)ခု နှင့် ဇုန်(၃)တွင် ပါဝင်သည့် လုပ်ငန်း (၈)ခု ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) အဆိုပြုလုပ်ငန်း (၁၃)ခုအနက် Paradiso Cinemas Co., Ltd. မှ တင်ပြလာသည့် ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း လုပ်ငန်း (Construction of Cinemas and Operation of Movies Show) (၂)ခု လုပ်ငန်း တို့သည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် မပါဝင်သဖြင့် ဝင်ငွေခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့် ပေးရန် မလိုအပ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) အဆိုပြုလုပ်ငန်း မြတ်သူရစက်မှုလက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ တင်ပြလာသော ရေးမြို့နှင့်အနီးပတ်ဝန်းကျင်ကျေးရွာများသို့ လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မွန်ပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ရရှိပြီးမှသာ အတည်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

(စ) တင်ပြထားသော လုပ်ငန်းများသည် အတည်ပြုမိန့် ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဆ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၅။ စက်မှုကဏ္ဍမှလုပ်ငန်း (၈)ခု၊ အခြားဝန်ဆောင်မှု ကဏ္ဍမှ လုပ်ငန်း (၄)ခု နှင့် လျှပ်စစ်ကဏ္ဍမှ လုပ်ငန်း (၁) ခု ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ

| စဉ် | ကုမ္ပဏီအမည် | အခြားဝန်ဆောင်မှုကဏ္ဍ Paradiso Cinemas Co., Ltd. | Paradiso Cinemas Co., Ltd. |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှု ပုံသဏ္ဍာန်<br><br>လုပ်ငန်းအမျိုးအစား | - Paradiso Cinemas Co., Ltd.<br>- ဦးတင်မောင်ဝင်း<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု မြန်မာနိုင်ငံ MAZE Co., Ltd မှ ၆၀ % ပြင်သစ်နိုင်ငံ Mr. Guy Robert EUGENE မှ ၄၀ %<br>- ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show) | - Paradiso Cinemas Co., Ltd.<br>- ဦးတင်မောင်ဝင်း<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု မြန်မာနိုင်ငံ MAZE Co., Ltd မှ ၆၀ % ပြင်သစ်နိုင်ငံ Mr. Guy Robert EUGENE မှ ၄၀ %<br>- ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ် ၇၀ (င)၊ ကွင်းအမှတ် (၇၈)၊ ကွင်းရပ်ကွင်း၊ ကွင်းရပ် ရပ်ကွက်၊ မော်လမြိုင်မြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ် | - ဦးပိုင်အမှတ် ၆၂၊ အကွက်အမှတ် ၁၃၊ ချမ်းအေးအရှေ့၊ ရွှေချီရပ်ကွက်၊ ပျဉ်းမနားမြို့နယ်၊ ရမည်းသင်းခရိုင်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>မြေ/အဆောက်အအုံ<br>ငှားရမ်းခ | - ဦးထွန်းဝင်း<br>- ၀.၃၆၅ ဧက (၁,၄၇၆.၉၃ စတုရန်းမီတာ)<br>- တစ်နှစ်လျှင် ကျပ် ၁၉.၂၀ သန်း (တစ်စတုရန်း မီတာလျှင် တစ်နှစ် ကျပ် ၁၃,၀၀၀) | - ဦးပေါ်မြင့်ဦး<br>- ၀.၂၂၅ ဧက (၉၁၀.၃၅ စတုရန်းမီတာ)<br>- တစ်နှစ်လျှင် ကျပ် ၁၆.၈၀ သန်း (တစ်စတုရန်း မီတာလျှင် တစ်နှစ် ကျပ် ၁၈,၄၅၄.၄၄) |

| | | | |
|---|---|---|---|
| | မြေ/အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့် သက်တမ်း | - ၁၀ နှစ် | - ၁၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် သက်တမ်း | - ၁၀ နှစ် | - ၁၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - ၁ နှစ် | - ၁ နှစ် |
| ၆။ | စုစုပေါင်း မတည်ငွေရင်း ထည့်ဝင်သည့် အမျိုးအစား<br>(က)ပြည်တွင်းမှထည့်ဝင်သည့် မတည်ငွေရင်းပမာဏ/ ရာခိုင်နှုန်း<br>(ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း<br>**စုစုပေါင်း** | - အမေရိကန်ဒေါ်လာ ၀.၃၂ သန်း<br>- အမေရိကန်ဒေါ်လာ ၀.၂၀ သန်း<br>**- အမေရိကန်ဒေါ်လာ ၀.၅၃ သန်း** | - အမေရိကန်ဒေါ်လာ ၀.၃၂ သန်း<br>- အမေရိကန်ဒေါ်လာ ၀.၂၀ သန်း<br>**- အမေရိကန်ဒေါ်လာ ၀.၅၃ သန်း** |
| ၇။ | အခြားတင်ပြချက်များ | (က) အဆိုပြုချက်နှင့်အတူ MAZE Co., Ltd. နှင့် Mr. Guy Robert EUGENE တို့ | (က) အဆိုပြုချက်နှင့်အတူ MAZE Co., Ltd. နှင့် Mr. Guy Robert EUGENE တို့ |

| | | | |
|---|---|---|---|
| | | ချုပ်ဆိုထားသည့် JV စာချုပ်၊ Paradiso Cinemas Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ MOA ၊ AOA နှင့် ဒါရိုက်တာစာရင်းတို့အား တင်ပြထားပါသည်။<br>(ခ) Paradiso Cinemas Co.,Ltd. နှင့် မြေပိုင်ရှင် ဦးထွန်းဝင်းတို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ် (မူကြမ်း)၊ မြေပိုင်ဆိုင်မှု အထောက်အထားများနှင့် အစိုးရပိုင်ရပ်ရှင်ရုံအား ပုဂ္ဂလိကသို့ လွှဲပြောင်းရောင်းချသည့် စာချုပ်တို့ကို တင်ပြထားပါသည်။<br>(ဂ) ဝန်ထမ်းခန့်ထားမည့် အစီအစဉ် နှင့် လုပ်ခလစာကို အောက်ပါအတိုင်း တင်ပြထားပါသည်-<br>**စုစုပေါင်း ၁၄ ဦး**<br>ပြည်တွင်း- ၁၄ ဦး (တစ်လလျှင် အနိမ့်ဆုံး လစာမှာ ကျပ် ၁၁၀,၀၀၀၊ အမြင့်ဆုံး လစာကျပ် ၄၇၀,၀၀၀ ဖြစ်ပါ သည်။)<br>နေ့စားဝန်ထမ်း ၄ ဦး ပါဝင်ပြီး နေ့စား ဝန်ထမ်း တစ်ဦးလျှင် တစ်ရက် ၃,၆၀၀ ကျပ် နှုန်းဖြင့် ခန့်ထားမည်ဖြစ်ပါသည်။ | ချုပ်ဆိုထားသည့် JV စာချုပ်၊ Paradiso Cinemas Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ MOA ၊ AOA နှင့် ဒါရိုက်တာစာရင်းတို့အား တင်ပြထားပါသည်။<br>- (ခ) Paradiso Cinemas Co.,Ltd. နှင့် မြေပိုင်ရှင် ဦးပေါ်မြင့်ဦးတို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ် (မူကြမ်း)၊ မြေပိုင်ဆိုင်မှု အထောက်အထားများနှင့် အစိုးရပိုင်ရပ်ရှင်ရုံအား ပုဂ္ဂလိကသို့ လွှဲပြောင်းရောင်းချသည့် စာချုပ်တို့ကို တင်ပြထားပါသည်။<br>(ဂ) ဝန်ထမ်းခန့်ထားမည့် အစီအစဉ် နှင့် လုပ်ခလစာကို အောက်ပါအတိုင်း တင်ပြထားပါသည်-<br>**စုစုပေါင်း ၁၄ ဦး**<br>ပြည်တွင်း- ၁၄ ဦး (တစ်လလျှင် အနိမ့်ဆုံး လစာမှာ ကျပ် ၁၁၀,၀၀၀၊ အမြင့်ဆုံး လစာကျပ် ၄၇၀,၀၀၀ ဖြစ်ပါ သည်။)<br>နေ့စားဝန်ထမ်း ၄ ဦး ပါဝင်ပြီး နေ့စား ဝန်ထမ်း တစ်ဦးလျှင် တစ်ရက် ၃,၆၀၀ ကျပ် နှုန်းဖြင့် ခန့်ထားမည်ဖြစ်ပါသည်။ |

| | | | |
|---|---|---|---|
| | | ပြည်ပ ခန့်ထားခြင်းမရှိပါ။ | ပြည်ပ ခန့်ထားခြင်းမရှိပါ။ |
| ၈။ | စိစစ်တင်ပြချက် | (က) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်ပမှ အမေရိကန်ဒေါ်လာ ၃၄၃,၄၀၀တန်ဖိုးရှိ ရုပ်ရှင်ရုံအတွက် လိုအပ်သော စက်ပစ္စည်းကိရိယာများကို တင်သွင်းဆောင်ရွက်မည် ဖြစ်ပါသည်။<br>(ခ) Paradiso Cinemas Co., Ltd. သည် ရုပ်ရှင်လုပ်ငန်း ဖွံ့ဖြိုးတိုး တက်ရေးအတွက် ထိုင်ခုံ (၃၂၀) ခုံဆံ့ Single Screen ရုပ်ရှင်ရုံ (၁၀၀) တည်ဆောက်ရေး စီမံချက်အား အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်၍ မြန်မာနိုင်ငံ တဝှမ်းရှိ မြို့များတွင် ရုပ်ရှင်ရုံတည်ဆောက်ခြင်း၊ ရုပ်ရှင်ပြသခြင်းကို ဆက်လက်ဆောင်ရွက်သွားရန် ရည်ရွယ်ထားကြောင်း တင်ပြထားပါသည်။<br>(ဂ) အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ တွင် ပါဝင်ခြင်းမရှိသည့်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားနိုင် | (က) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်ပမှ အမေရိကန်ဒေါ်လာ ၃၄၃,၄၀၀တန်ဖိုးရှိ ရုပ်ရှင်ရုံအတွက် လိုအပ်သော စက်ပစ္စည်းကိရိယာများကို တင်သွင်းဆောင်ရွက်မည် ဖြစ်ပါသည်။<br>(ခ) Paradiso Cinemas Co., Ltd. သည် ရုပ်ရှင်လုပ်ငန်း ဖွံ့ဖြိုးတိုး တက်ရေးအတွက် ထိုင်ခုံ (၃၂၀) ခုံဆံ့ Single Screen ရုပ်ရှင်ရုံ (၁၀၀) တည်ဆောက်ရေး စီမံချက်အား အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်၍ မြန်မာနိုင်ငံတဝှမ်းရှိ မြို့များတွင် ရုပ်ရှင်ရုံတည်ဆောက်ခြင်း၊ ရုပ်ရှင်ပြသခြင်းကို ဆက်လက်ဆောင်ရွက်သွားရန် ရည်ရွယ်ထားကြောင်း တင်ပြထားပါသည်။<br>(ဂ) အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်းမရှိသည့်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားနိုင်မည် |

| | | | |
|---|---|---|---|
| | | မည် မဟုတ်ကြောင်း စိစစ်ရပါ သည်။<br>(ဃ) အစိုးရပိုင်ရုပ်ရှင်ရုံအား ပုဂ္ဂလိကသို့ လွှဲပြောင်းခဲ့ပြီး ထိုပုဂ္ဂလိကပိုင်ရုပ်ရှင်ရုံအား ငှားရမ်းဆောင်ရွက်မည်ဖြစ်သောကြောင့် တိုင်းဒေသကြီး/ပြည်နယ်အစိုးရသို့ သဘောထားမှတ်ချက် တောင်းခံထား ခြင်းမရှိပါ။ | မဟုတ်ကြောင်း စိစစ်ရပါသည်။<br>(ဃ) အစိုးရပိုင်ရုပ်ရှင်ရုံအား ပုဂ္ဂလိကသို့ လွှဲပြောင်းခဲ့ပြီး ထိုပုဂ္ဂလိကပိုင်ရုပ်ရှင်ရုံအား ငှားရမ်းဆောင်ရွက်မည်ဖြစ်သောကြောင့် တိုင်းဒေသကြီး/ပြည်နယ်အစိုးရသို့ သဘောထားမှတ်ချက် တောင်းခံထား ခြင်းမရှိပါ။ |

အကြောင်းအရာ။ မြတ်သူရ စက်မှုလက်မှုကုမ္ပဏီလီမိတက်မှ ရေးမြို့နှင့် ပတ်ဝန်းကျင်ကျေးရွာများသို့ HFO/ HFD လောင်စာဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ရင်းနှီးမြှုပ်နှံသူ<br>လုပ်ငန်းအမျိုးအစား | - မြတ်သူရ စက်မှုလက်မှုကုမ္ပဏီလီမိတက်<br>မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ရေးမြို့နှင့် ပတ်ဝန်းကျင်ကျေးရွာများသို့ HFO/ HFD လောင်စာဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မွန်ပြည်နယ်၊ ရေးမြို့နယ်၊ ဒူးယားကျေးရွာအုပ်စု၊ အစင်ကျေးရွာ၊ မဲပိုင်ကွင်း၊ ကွင်းအမှတ်-၁၁၅၇ ရှိမြေ ၁.၄၈ ဧက |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း | - ဦးသန်းရှိန်<br>- ၁.၄၈ ဧက |
| ၄။ | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့် အမျိုးအစား | |

| စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့် အမျိုးအစား | US$ သန်း | ညီမျှသော ကျပ်သန်း | ကျပ်သန်း | စုစုပေါင်း ကျပ်သန်း |
|---|---|---|---|---|
| (က) ငွေသား | - | - | ၁၀၀.၀၀ | ၁၀၀.၀၀ |
| (ခ) မြေနှင့်အဆောက်အဦတန်ဖိုး | - | - | ၇၄၈.၆၀ | ၇၄၈.၆၀ |
| (ဂ) စက်ပစ္စည်း | ၄.၃၃ | ၅,၈၈၃.၃၆ | ၂,၇၂၅.၆၀ | ၈,၆၀၈.၉၆ |
| စုစုပေါင်း | ၄.၃၃ | ၅,၈၈၃.၃၆ | ၃,၅၇၄.၂၀ | ၉,၄၅၇.၅၆ |

| | | |
|---|---|---|
| ၆။ | အခြားတင်ပြချက်များ | (က) အဆိုပြုချက်နှင့်အတူ မြတ်သူရ စက်မှုလက်မှုကုမ္ပဏီလီမိတက် ၏ ကုမ္ပဏီမှတ်ပုံတင် (မိတ္တူ)၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ လုပ်ငန်း ဆောင်ရွက်မည့် မြေ ၁.၄၈ ဧကအတွက် လယ်ယာမြေကို သတ်မှတ်သည့် နည်းလမ်းအတိုင်းအသုံးပြုရန် ခွင့်ပြုမိန့် ပုံစံ(၃၃) ကို တင်ပြထားပါသည်။<br>(ခ) မွန်ပြည်နယ်၊ ရေးမြို့နယ်၊ မြို့နယ်မီးလင်းရေး ကော်မတီနှင့် မြတ်သူရ စက်မှုလက်မှု ကုမ္ပဏီလီမိတက် အကြား ၂၀၁၂ ခုနှစ် အောက်တိုဘာလ ၁၅ ရက်နေ့တွင်ချုပ်ဆိုသည့် "နှစ်ဦးသဘောတူလုပ်ငန်းအပ်နှံသည့် စာချုပ်"၊ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်းနှင့် မွန်ပြည်နယ်၊ ရေးမြို့နယ်၊ မြို့နယ် မီးလင်းရေးကော်မတီတို့အကြား ၂၀၁၇ ခုနှစ် ဇူလိုင်လ ၁၁ ရက်နေ့တွင် လက်မှတ်ရေးထိုး ချုပ်ဆိုထားသော " ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန် ပဋိညာဉ်စာချုပ်အမှတ်(၁၀/၂၀၁၂)၏ နောက်ဆက်တွဲသဘောတူညီချက်(၅)" အား တင်ပြထားပါသည်။<br>(ဂ) **ဝန်ထမ်းခန့်ထားမည့်အစီအစဉ်နှင့် လုပ်ခလစာ**<br>**စုစုပေါင်း- ၈၂ ဦး**<br>ပြည်တွင်း- ၈၂ ဦး (အနိမ့်ဆုံးလစာ ကျပ် ၂၀၀,၀၀၀.၀၀<br>အမြင့်ဆုံးလစာ ကျပ် ၁၀၀၀,၀၀၀.၀၀) |
| ၇။ | **စိစစ်တင်ပြချက်** | (က) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁၃/၂၀၁၇ အရ ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးမှု အသင့်အတင့်ရှိသော ဒေသ(ဇုန်၂)တွင် လုပ်ငန်း ဆောင်ရွက်မည်ဖြစ်သော ကြောင့် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅) နှစ် ခံစားနိုင်မည်ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | (ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့် ကြော်ငြာစာ အမှတ် ၁၅/၂၀၁၇ အရ နိုင်ငံတော်ကသာ ဆောင်ရွက်ခွင့်ရှိသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းစာရင်း၊ နိုင်ငံခြားသားက ဆောင်ရွက်ခွင့်မရှိသည့် လုပ်ငန်းစာရင်း၊ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်းစာရင်း၊ သက်ဆိုင်ရာဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိ ပါကြောင်း တင်ပြအပ်ပါသည်။<br>(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ- ၃၆ အရ အဆိုပြု လုပ်ငန်းသည် ကော်မရှင် ၏ ခွင့်ပြုမိန့် ရယူဆောင်ရွက်ရ မည့်စာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်း၊ အတည်ပြု မိန့်ဖြင့် ဆောင်ရွက်နိုင်ကြောင်း စိစစ်ရပါသည်။<br>(ဃ) မွန်ပြည်နယ်အစိုးရအဖွဲ့သို့ သဘောထားမှတ်ချက်တောင်းခံထားပါသည်။ |

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏အတည်ပြုလျှောက်ထားလွှာ

# ရေးမြို့နယ်နှင့် အနီးပါဝင်ဂန်ကျင်ရှိကျေးရွာများသို့
# လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း


မြတ်သူရစက်မှုလက်မှု ကုမ္ပဏီလီမိတက်

MyatThura Industry Co., Ltd.

ပုံစံ(၄ - က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
# ရင်းနှီးမြှုပ်နှံသူ၏အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၀၁၇ခုနှစ်၊ ဩဂုတ်လ ၁၅ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၃၇နှင့်အညီ အောက်ဖော်ပြပါအချက်များအားဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

| | | | |
|---|---|---|---|
| (က) | အမည် | - | ဦးသန်းရှိန် |
| (ခ) | ကုမ္ပဏီမှတ်ပုံတင်အမှတ် | - | ၁၄၃၇ / ၂၀၀၄ - ၂၀၀၅ |
| | နိုင်ငံသားစိစစ်ရေးကဒ်အမှတ် / နိုင်ငံကူးလက်မှတ်အမှတ် | - | ၁၀/ရမန(နိုင်)၀၃၉၈၈၁ |
| (ဂ) | နိုင်ငံသား | - | ဗမာ |
| (ဃ) | နေရပ်လိပ်စာ/မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ | - | အမှတ်- စီ-၁ ၊ အကျွာဂါ (၂) လမ်း ၊ ညောင်တန်းအိမ်ရာ၊ပုဇွန်တောင်မြို့ ၊ရန်ကုန်တိုင်းဒေသကြီး။ |
| (င) | တယ်လီဖုန်း/ဖက်စ် / အီးမေးလ် လိပ်စာ | - | ၀၁-၂၀၂၆၁၁ ၊ ၀၁-၂၉၈၁၈၅ |
| (စ) | လုပ်ငန်းအမျိုးအစား (အသေးစိတ်ဖော်ပြရန်) | - | ရေးမြို့နှင့်ပတ်ဝန်းကျင်ရွာများသို့ Generatorများဖြင့်လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ၊ ဆောင်ရွက်မည့်လုပ်ငန်းအသေးစိတ်အား နောက်ဆက်တွဲ(က)ဖြင့်ဖော်ပြပါသည်။ |

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်း မဟုတ်ပါက လျှောက်ထားသူ၏ -

| | | | |
|---|---|---|---|
| (က) | အမည် | - | ဦးညီမိုင်း |
| (ခ) | ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် (လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက) | - | ဦးမင်းမြတ်နိုင် (ဒါရိုက်တာ) |
| (ဂ) | နိုင်ငံသားစိစစ်ရေးကတ်အမှတ် / နိုင်ငံကူးလက်မှတ်အမှတ် | - | ၁၀/ရမန(နိုင်)၀၀၈၄၉၈ |
| (ဃ) | နိုင်ငံသား | - | ဗမာ |
| (င) | မြန်မာနိုင်ငံတွင် နေထိုင်သည့်လိပ်စာ | - | အမှတ်-၆/၃၀၅-၃၀၇၊ညောင်တန်းအိမ်ရာ၊ ပုဇွန်တောင်မြို့နယ် ၊ ရန်ကုန်မြို့၊ |
| (စ) | တယ်လီဖုန်း/ဖက်စ် | - | ၀၁-၂၀၂၆၁၁ ၊ ၀၁-၂၉၈၁၈၅ |

(ဆ) အီးမေးလ်လိပ်စာ -

(တရားဝင် ကိုယ်စားလှယ်လွှဲစာအား နောက်ဆက်တွဲဖြင့် ပူးတွဲတင်ပြအပ်ပါသည်။)

၃။ ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍန် - လီမိတက်ကုမ္ပဏီ

၄။ အစုရှယ်ယာ ၁၀% နှုန်းနှင့်အထက် ပိုင်ဆိုင်သော အစုရှယ်ယာရှင်များစာရင်းအား နောက်ဆက်တွဲဇယားဖြင့် ဖော်ပြအပ်ပါသည် ။

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု |
|---|---|---|---|
| ၁။ | ဦးသန်းရှိန် | ဗမာ | ၄၀ % |
| ၂။ | ဒေါ်စန်စန်ဂင်း | ဗမာ | ၂၀% |
| ၃။ | ဒေါ်လွင်လွင်သန်း | ဗမာ | ၂၀% |
| ၄။ | ဦးမင်းမြတ်နိုင် | ဗမာ | ၂၀% |

၅။ ကုမ္ပဏီဖွဲ့စည်းခြင်း နှင့် သက်ဆိုင်သော အချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း - (ကျပ်၅၀၀,၀၀၀,၀၀၀) ကျပ်သန်းငါးရာ

(ခ) အစုရှယ်ယာအမျိုးအစား - (တစ်စုလျှင်ကျပ်၁၀၀၀၀)ကျပ်တစ်သောင်းတန်သာမန်အစုရှယ်ယာ( ၅၀၀၀၀)

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ - တစ်စုလျှင်ကျပ်တစ်သောင်းတန်အစုရှယ်ယာ ( ၅၀၀၀ )

(ခွင့်ပြုမိန့်ရရှိပြီးပါက ခွင့်ပြုမတည်ငွေရင်းကို တိုးမြှင့်သွားမည် ဖြစ်ပါသည်။)

သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ကုမ္ပဏီဖွဲ့စည်းပုံအခြေခံစည်းမျဉ်း မိတ္တူအား ပူးတွဲ တင်ပြအပ်ပါသည်။

၆။ မတည်ငွေရင်းနှင့် သက်ဆိုင်သည့် အချက်အလက်များ -

ကျပ်/ US$ (သန်းပေါင်း)

(က) ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း - ကျပ်သန်းငါးရာ ၊ ၁၀၀%

(ခ) နိုင်ငံခြားမှယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း - မရှိပါ

(ဂ) စုစုပေါင်း - ကျပ်သန်းငါးရာ

၇။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း - ၁၀ နှစ်

၈။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်း နှင့် သက်ဆိုင်သောအချက်အလက်များ -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ - ရေးမြို့နယ် ၊ မွန်ပြည်နယ်

(ခ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး / ပမာဏ - ကျပ်သန်းပေါင်း ၉၄၅၇.၅၆

(နောက်ဆက်တွဲ (က )တွင်ပူးတွဲဖော်ပြအပ်ပါသည် ။)

၉။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန ၊ လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်းနှင့် ရေးမြို့မီးလင်းရေးကော်မီတီတို့ ချုပ်ဆိုခဲ့သောပဋိညဉ်စာချုပ်အမှတ် (၁၀/၂၀၁၂) နှင့် မြို့မီးလင်းရေးကော်မီတီမှ မြတ်သူရစက်မှုလက်မှုကုမ္ပဏီလီမိတက်သို့လုပ်ငန်းအပ်နှံသည့် စာချုပ်များကို နောက်ဆက်တွဲ (ခ) ဖြင့်ဖော်ပြအပ်ပါသည်။

၁၀။ လုပ်ငန်းဆောင်ရွက်လျှက်ရှိပြီး ၊ ဆောင်ရွက်မှုအခြေအနေကို နောက်ဆက်တွဲ(ဂ)ဖြင့်ဖော်ပြအပ်ပါသည်။

၁၁။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါ လျှောက်ထားလွှာများကို ဆက်လက်တင်ပြလျှောက်ထားပါမည်-

(က) မြေအသုံးပြုခွင့်လျှောက်ထားလွှာ

(ဓ) အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

**ကတိဝန်ခံချက်**

အထက်ဖော်ပြပါ လျှောက်ထားသူမှ ပေးအပ်သည့်အချက်အလက်များအားလုံးသည် မှန်ကန်မှုရှိပါကြောင်း အာမခံပါသည်။

ဤအတည်ပြုလျှောက်ထားလွှာတွင် အတည်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှစိစစ်ရာ၌ လိုအပ်သည့် အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အတည်ပြုလျှောက်ထားလွှာကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်းကို ကောင်းစွာသဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် - ဦးညီမျိုး

ရာထူး - General Manager

ကုမ္ပဏီ - Myat Thu Ra Co., Ltd.

# MYAT THU RA INDUSTRY CO., LTD.

No. C-1, Annawar Lane (2), Nyaung Tan Housing, Pazundaung Township,
Yangon. Ph : 202611, 298185

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၁၅ ရက်

အကြောင်းအရာ။ **ကိုယ်စားလှယ်လွှဲအပ်တာဝန်ပေးခြင်း**

ကျွန်တော်များ Myat Thu Ra Industry Co., Ltd . ၏ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမည့် ရင်းနှီးမြှုပ်နှံလိုသူ၏အတည်ပြုလွှာ ကိစ္စအရပ်ရပ်ကို ဆောင်ရွက်ရန်အတွက် Myat Thu Ra Co.,Ltd. မှ အထွေထွေမန်နေဂျာ ဦးညီမျိုး ( မှတ်ပုံတင်အမှတ် - ၁၀/ရမန (နိုင်) ၀၀၄၉၈ )အား ကိုယ်စားလှယ်အဖြစ် တာဝန်ပေးအပ်ပါသည် ၊ ၎င်း၏ထိုးမြဲလက်မှတ်နမူနာမှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည် -

ထိုးမြဲလက်မှတ် - ၁

ထိုးမြဲလက်မှတ် -၂

ထိုးမြဲလက်မှတ် -၃

ဦးသန်းရှိန်
Managing Director
Myat Thu Ra Industry Co., Ltd

008295

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ........၁၄၃၇./ ၂၀၀၄ – ၂၀၀၅

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ........မြတ်သူရ စက်မှုလက်မှု............
............ကုမ္ပဏီ လီမိတက်...................... အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်
ကုမ္ပဏီအဖြစ် ..၂၀၀၅. နှစ်၊ .....ဇန်နဝါရီ...လ၊ ....၁၅. ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား
..၂၀၁၃.. နှစ်၊ ...မတ်.......လ၊ ..၂၈.. ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(နန်းရီရီသန်း ၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ..............1437.......... of 2004 - 2005

I hereby certify that the tenure of ......... MYAT THURA INDUSTRY ..........
.......... COMPANY LIMITED .......................incorporated under the
Myanmar Companies Act on .............................. 15th JANUARY, 2005 ..........
is renewed with effected from ........................ 28th MARCH, 2013 ..........

**For Director General**
**( Nang Yi Yi Than , Director )**
Directorate of Investment and Company Administration

ORIGINAL

| | |
|---|---|
| 1. Name and Address of Enterprise<br>လုပ်ငန်းအမည်နှင့် လိပ်စာ<br>MYAT THURA INDUSTRY COMPANY LTD.<br>~~NO.6/305-307,NYAUNG TAN HOUSING,~~<br>~~PAZUNDAUNG TOWNSHIP, YANGON.~~ 8/8/2013 | 4. Registration No. & Date 20 ⎸ 4 ⎸2005<br>ကြီးကြပ်အမှတ်နှင့် နေ့စွဲ<br>MTA THA RA<br>18225<br>Union of Myanmar<br>Ministry of Commerce<br>Directorate of Trade<br>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ<br>စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန<br>ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန<br>CERTIFICATE OF EXPORTER/IMPORTER REGISTRATION<br>ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင် မှတ်ပုံတင်လက်မှတ် |
| 2. Contact No. ဆက်သွယ်ရန်<br>202611 ........ ........<br>Telephone No. / Fax No. / Telex No.<br>တယ်လီဖုန်းနံပါတ် / ဖက်စ်နံပါတ် / တဲလက်စ်နံပါတ် | |
| 3. Business Registration No. 1437/2004-2005<br>လုပ်ငန်းမှတ်ပုံတင်အမှတ် | Note: ☐ Please tick ( √ ) where applicable<br>သက်ဆိုင်ရာအကွက်ကိုအမှန် အမှတ်အသားပြုပါ |

5. Type of Business လုပ်ငန်းအမျိုးအစား

☐ a) Sole Proprietorship တစ်ဦးတည်းပိုင်
☐ b) Partnership အစုစပ်
☐ c) Limited Company (Myanmar or Foreign) လီမိတက်ကုမ္ပဏီ (မြန်မာ / နိုင်ငံခြား)
☐ d) Co-operative Society သမဝါယမအသင်း
☐ e) Others ( please specify ) ........ PRODUCTION
အခြား (ဖော်ပြရန်) ကျောက်ပါလုပ်ငန်း (၄) မျိုး ဆောင်ရွက်ခွင့်ရှိသည်။

6. Terms and Conditions စည်းကမ်းချက်များ

I hereby register the above mentioned enterprise as Exporter / Importer subject to the following terms and conditions:
အောက်ဖော်ပြပါ စည်းကမ်းချက်များဖြင့် ထုတ်ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်ပုံတင်ခွင့်ပြုသည်။

(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကျန်ပစ္စည်းများအားလုံး

(b) The enterprise must abide by the Export/ Import Rules and Regulations prescribed for the registered Exporters/Importers.
လုပ်ငန်းရှင်သည် မှတ်ပုံတင် ထုတ်ကုန်သွင်းကုန်လုပ်ငန်း လုပ်ကိုင်သူများ လိုက်နာရမည့် စည်းကမ်းချက်များကို လိုက်နာရမည်။

(c) The registration is valid for ........ TWO ........ year(s) up to 20-4-2005 TO 14-1-2007
မှတ်ပုံတင်သက်တမ်း

မှတ်ချက်။ ။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းအတိုင်း ပေးခြင်းဖြစ်သည်။ (နှစ် / နေ့ထိ)

21/4/05

For DIRECTOR GENERAL
ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
AUNG SOE, DEPUTY ...

21/4/05

Stamp: DIRECTORATE OF TRADE No. ........ Date 20/4/2005
Stamp
ရုံးတံဆိပ်

7. Extension of Export/Import Registration Period ထုတ်ကုန် သွင်းကုန်လုပ်ငန်း လုပ်ငန်းရှင် မှတ်ပုံတင်အား သက်တမ်းတိုးမြှင့်ပေးခြင်း

Period Extended
သက်တမ်းတိုးမြှင့်သည့်ကာလ

Authorised Signature & Name
ခွင့်ပြုသူလက်မှတ်နှင့်အမည်

(1) 26.2.2008 ...... up to 25.8.2008 (ယာယီ) ........
နေ့မှ ထိ

(2) 3.2.2010 ...... up to 14.1.2011 ........ Hla Zaw Deputy Director 3.2.10
(ကုမ္ပဏီ သက်တမ်း ...)
ထိ

(3) 21.10.2011 ...... up to 14.10.2013 ........ 21.10.11
နေ့မှ ထိ

* ပလပ်စတစ်မပါလောင်းရန် *

REPUBLIC OF THE UNION OF MYANMAR

**PASSPORT**



| Type | Country code | Passport No |
|---|---|---|
| PV | MMR | MA259677 |

Name
THAN SHEIN

Nationality
MYANMAR

Date of birth
04 APR 1958

Sex
M

Place of birth
YE

Date of issue
09 JUL 2013

Authority
MOHA, YANGON

Date of expiry
08 JUL 2018

Holder's signature



```
PVMMRTHAN<SHEIN<<<<<<<<<<<<<<<<<<<<<<<<<<<<<
MA259677<4MMR5804041M1807088<<<<<<<<<<<<<<<4
```

## မြတ်သူရစက်မှုလက်မှုကုမ္ပဏီလီမိတက်၏ ဒါရိုက်တာအမည်စာရင်း

နောက်ဆက်တွဲဇယား

| စဉ် | အမည် နှင့်နေရပ်လိပ်စာ | လူမျိုး ၊ နိုင်ငံသားမှတ်ပုံတင်အမှတ် | ရာထူး | အစုရှယ်ယာ |
|---|---|---|---|---|
| ၁ | ဦးသန်းရှိန်<br>အမှတ် ၆/၃၀၅-၃၀၇ ၊ ညောင်တန်းအိမ်ယာ ၊ပုဇွန်တောင်မြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ဗမာ<br>၁၀/ရမန (နိုင်) ၀၃၉၈၈၀ | မန်နေဂျင်းဒါရိုက်တာ | ၂၀၀၀ |
| ၂ | ဒေါ်စန်းစန်းဝင်း<br>အမှတ် ၆/၃၀၅-၃၀၇ ၊ ညောင်တန်းအိမ်ယာ ၊ပုဇွန်တောင်မြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ဗမာ<br>၁၀/ရမန (နိုင်) ၀၂၅၄၅၉ | ဒါရိုက်တာ | ၁၀၀၀ |
| ၃ | ဒေါ်လွင်လွင်သန်း<br>အမှတ် ၆/၃၀၅-၃၀၇ ၊ ညောင်တန်းအိမ်ယာ ၊ပုဇွန်တောင်မြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ဗမာ<br>၁၀/မလမ (နိုင်) ၁၈၄၃၈၄ | ဒါရိုက်တာ | ၁၀၀၀ |
| ၄ | ဦးမင်းမြတ်နိုင်<br>အမှတ် ၆/၃၀၅-၃၀၇ ၊ ညောင်တန်းအိမ်ယာ ၊ပုဇွန်တောင်မြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ဗမာ<br>၁၀/မလမ (နိုင်) ၁၇၅၇၈၆ | ဒါရိုက်တာ | ၁၀၀၀ |

**Than Shein**
Managing Director
Myat Thura Industry Co., Ltd.

နောက်ဆက်တွဲ (က)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ၊ မြတ်သူရစက်မှုလက်မှု ကုမ္ပဏီလီမိတက်၏ ရေးမြို့နယ်သို့ လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရောင်းချရေး နှင့် ပတ်သက်၍ဆောင်ရွက်မည့်လုပ်ငန်းအားရှင်းလင်းတင်ပြခြင်း

၁။ မြတ်သူရစက်မှုလက်မှုကုမ္ပဏီလီမိတက်သည် မြို့မီးလင်းရေးကော်မီတီနှင့်ချုပ်ဆိုခဲ့သော လုပ်ငန်း အပ်နှံသည့် သဘောတူစာချုပ်အရ ၁၅-၁၁-၂၀၁၂ ခုနှစ်မှစတင်၍ ရေးမြို့နယ်၊ အစင်ကျေးရွာအနီး၌ ဒီဇယ်ဆီ Generatorများဖြင့် လျှပ်စစ်ဓာတ်အားပေးစက်ရုံကို တည်ဆောက်ခဲ့ပြီး ရေးမြို့နယ်သို့ (၂၄)နာရီပတ်လုံး လျှပ်စစ်ဓာတ်အားဖြန့်ဖြူးပေးခြင်းကို စတင်ဆောင်ရွက်ခဲ့ပါသည်။ ကုမ္ပဏီ၏လျှပ်စစ်ဓာတ်အားဖြန့်ဖြူးမှုပြပုံကို နောက်ဆက်တွဲပုံများဖြင့် ပူးတွဲဖေါ်ပြအပ်ပါသည်။

၂။ ထိုသို့ဖြန့်ဖြူးရောင်းချရန် မြို့လျှပ်စစ်မီးလင်းရေးရုံးကိုလည်း ရေးမြို့တွင်ဖွင့်လှစ်ဆောင်ရွက်ခဲ့ပြီး လျှပ်စစ်မီး တစ်ယူနစ်လျှင် ၄၅၀/- နှုန်းဖြင့် ဒေသခံပြည်သူတို့အား ရောင်းချပေးပြီး အစိုးရ အဖွဲ့အစည်းများနှင့် ဌာနဆိုင်ရာများကို လျှော့ပေါ့သည့်နှုန်းဖြင့် ရောင်းချဖြန့်ဖြူးပေးခဲ့ပါသည်။ ထိုသို့ လုပ်ငန်းစတင်စဉ်က ဒီဇယ် Generator (၁၆)လုံးဖြင့်မောင်းနှင် ဖြန့်ဖြူးပေးရသည့်အတွက် ဆီဈေးကြီးမြင့်မှုအရ လျှပ်စစ်မီတာခနှုန်းမှာလည်း မြင့်တက်ခဲ့ပါသည်။ သို့ပါ၍ကုမ္ပဏီအနေဖြင့် လျှပ်စစ်ဓာတ်အားကို ပိုမိုသက်သာသောနှုန်းထားဖြင့် ဖြန့်ဖြူး ပေးနိုင်ရန်နှင့် လူတန်းစားအားလုံး လျှပ်စစ်ဓာတ်အားကိုသုံးစွဲနိုင်စေရန်ရည်ရွယ်ပြီး ဈေးနှုန်းသက်သာသော HFOဆီဖြင့်လည်ပတ်နိုင်မည့် Generatorများဝယ်ယူ၍ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးပေးရန် ရည်ရွယ်ပါသဖြင့် ယခုရင်းနှီးမြှုပ်နှံမည့် အစီအစဉ်ကို တင်ပြရခြင်းဖြစ်ပါသည် ။

၃။ ကနဦးဓာတ်အားပေးစက်ရုံနှင့် ကပ်လျှက်ရှိသော မြေနေရာများအားထပ်မံဝယ်ယူခဲ့ပြီး ဓာတ်အားပေး စက်ရုံအသစ်တစ်ရုံ ထပ်မံတည်ဆောက်ပြီး ၊ ၎င်းမီးစက်ရုံအသစ်တွင် ပြည်ပမှတင်းသွင်းမည့် HFOဆီဖြင့် လည်ပတ်သည့် Generator(၂)လုံးအား ဝယ်ယူတပ်ဆင်ပြီး လျှပ်စစ်ဓာတ်အားကို ဈေးနှုန်းသက်သာစွာဖြင့် ထုတ်လုပ်ဖြန့်ဖြူး ပေးသွားမည်ဖြစ်ပါသည်။ ပထမအဆင့်အနေဖြင့် Caterpillar Generator များကို ပြည်ပမှမှာယူရောင်းချပေးသည့် Myan Shwe Pyi Tractors Limited မှတဆင့် 2.3 MW ထုတ်လုပ်နိုင်သည့် CAT 8 CM 25 Series မီးစက်တစ်လုံးအား ဝယ်ယူရန်အတွက် 25-5-217 တွင် အရောင်းအဝယ်စာချုပ်ချုပ်ဆိုခဲ့ပြီး မီးစက်တန်ဘိုး၏၃၀%ကို ပေးချေခဲ့ပြီးဖြစ်ပါသည်။(စာချုပ်မိတ္တူကို ပူးတွဲတင်ပြအပ်ပါသည်) ၎င်းမီးစက်ရောက်ရှိနိုင်မည့် ခန့်မှန်းအချိန်မှာ စာချုပ်ချုပ်ဆိုပြီးနောက် (၉)လခန့်တွင်ဖြစ်ပြီး ၊ ၎င်းမီးစက်မရောက်မီ ကာလအတွင်း မြေနေရာအသစ်အား မြေပြင်ခြင်းနှင့်မီးစက်ရုံတည်ဆောက်ခြင်းကို ကြိုတင်လုပ်ဆောင်ထားမည်ဖြစ်ပြီး ၊စက်ရောက်ရှိ တပ်ဆင်မောင်းနှင်စမ်းသပ်မည့် အချိန်ကာလမှာ (၃) လခန့်ဖြစ်၍ စုစုပေါင်းခန့်မှန်းအချိန်ကာလမှာ တစ်နှစ်ခန့်ဖြစ်ပါသည်။ ၎င်းGenerator ဝယ်ယူတပ်ဆင်နေသည့်ကာလအတွင်း လက်ရှိမီးစက်များဖြင့် ဓာတ်အားဖြန့်ဖြူးခြင်း

ကို ဆက်လက်ဆောင်ရွက်ပေးနေမည်ဖြစ်ပါသည်။ မီးစက်အသစ်ဖြင့် စတင်ဖြန့်ဖြူးနိုင်ချိန်မှစ၍ ဓာတ်အားခနှုန်းထားကို အသစ်ပြန်လည်တွက်ချက်ထားသည့် နှုန်းထားအသစ်ဖြင့် ဆက်လက်ဖြန့်ဖြူးပေးမည် ဖြစ်ပါ သည်။

၆။ ဒုတိယအဆင့်အနေဖြင့် HFOဆီဖြင့်လည်ပတ်သည့် ပထမမီးစက်ဖြင့် ဓာတ်အားဖြန့်ဝေပေးမှု အောင်မြင်ပြီးသည့်အချိန်မှစ၍ ဒုတိယGeneratorကို တင်သွင်းရန်စတင်ဆောင်ရွက်မည်ဖြစ်ပါသည်၊ ခန့်မှန်းအချိန်ကာလမှာ လုပ်ငန်းစတင်ပြီး တတိယနှစ်တွင်စတင်မှာယူသွားရန် နှင့် စတုတ္ထနှစ်တွင်ဒုတိယမီးစက်ကို စတင်လည်ပတ်နိုင်ရန် ရည်မှန်ထားပါသည်၊ HFO Generatorမီးစက်အားလုံးတပ်ဆင်ပြီး အပြည့်အဝလည်ပတ်နိုင်သည့်အချိန်တွင် လျှပ်စစ်ဓာတ်အား 4.6 MW ကို အပြည့်အဝပို့ လွှတ်ပေးနိုင်မည်ဖြစ်ပြီး၊ မြတ်သူရကုမ္ပဏီအနေဖြင့် တစ်ယူနစ်နှုန်းထားကိုလည်း ၄၅ဝိ/- မှ နှစ်အလိုက် စက်သုံးဆီဈေးနှုန်းပေါ် မူတည်ပြီး လျှော့ချဖြန်းဖြူးပေးသွားရန် ရည်ရွယ်ပါသည်။ ကုမ္ပဏီအနေဖြင့် ဒေသခံပြည်သူများအားလုံး လျှပ်စစ်မီးသုံးစွဲနိုင်ရေးနှင့် လျှပ်စစ်မီးရရှိခြင်းကြောင့် ဒေသဖွံ့ဖြိုးတိုးတက်စေရန်အတွက် အပြည့်အဝ စီစဉ်ဆောင်ရွက်မည်ဖြစ်ပါသည် ။ လုပ်ငန်းအတည်ပြုလွှာ တင်ပြချက်နှင့်အတူ အောက်ဖော်ပြပါ အချက်အလက်တို့အား မိတ္တူဖြင့်ပူးတွဲတင်ပြအပ်ပါသည်-

က။ မတည်ရင်းနှီးငွေ နှင့် ရင်းနှီးမြှုပ်နှံမည့်ပမာဏစာရင်း

ခ။ ဝယ်ယူတင်သွင်းမည့် Generator ၏ Catalogue Copy နှင့် အရောင်းအဝယ်စာချုပ်မိတ္တူ

ဂ။ မီးစက်အသစ်နှစ်လုံးအား အထိုင်ချတပ်ဆင်မည့် ဓာတ်အားပေးစက်ရုံအသစ်၏ Layout Plan

ဃ။ မြေပိုင်ဆိုင်မှုအထောက်အထားမိတ္တူများ

င။ ခန့်ထားနိုင်မည့်ဝန်ထမ်းစာရင်း

စ။ ဝန်ထမ်းများလုပ်ငန်းခွင်ဘေးကင်းရေး နှင့် ဆောင်ရွက်ပေးမည့် သက်သာချောင်ချိရေးကိစ္စများ

လေးစားမှုဖြင့်

Than Shein
Managing Director
Myat Thura Industry Co., Ltd.

[illegible] တွဲ(က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

# လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း

နှင့်

# မီးလင်းရေးကော်မတီ

တို့

မွန်ပြည်နယ်၊ ရေးမြို့တွင်

လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း၏ ကိုယ်စား

ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန်

ပဋိညာဉ်စာချုပ်အမှတ်( ၁၀/၂၀၁၂ ) ၏ နောက်ဆက်တွဲသဘောတူညီချက်(၅)

နေရာ ၊ နေပြည်တော် ။

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇူလိုင် လ ၁၁ ရက်။

## မွန်ပြည်နယ်၊ ရေးမြို့တွင်လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း၏ကိုယ်စား ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန် ပဋိညာဉ်စာချုပ်အမှတ် (၁၀/၂၀၁၂) ၏ နောက်ဆက်တွဲသဘောတူညီချက် (၅)

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်းကိုယ်စား ရေးမြို့တွင် ဓာတ်အားထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် ၁၀.၁၀.၂၀၁၂ ရက်နေ့တွင် ချုပ်ဆိုခဲ့သည့် စာချုပ်အမှတ် (၁၀/၂၀၁၂)၏ နောက်ဆက်တွဲ သဘောတူညီချက်(၅)အဖြစ် အပိုဒ်(၉)တွင် ဖော်ပြထားသည့် လုပ်ငန်းဆောင်ရွက်ရန်ကာလကို အောက်ပါအတိုင်း ဖြည့်စွက်ချုပ်ဆိုရန် ၂၀၁၇ ခုနှစ်၊ ဇူလိုင် လ ၁၁ ရက်နေ့တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်။

၉။ **လုပ်ငန်းဆောင်ရွက်ရန်ကာလ**

လုပ်ငန်းဆောင်ရွက်ရန်ကာလကို (၁) နှစ်ပြည့်မြောက်ပြီးသည့် ၂၆.၂.၂၀၁၇ ရက်နေ့မှ နိုင်ငံတော်ဓာတ်အားစနစ်ဖြင့် ဓာတ်အားဖြန့်ဖြူးသည့်နေ့ ( သို့မဟုတ် ) တစ်နှစ်သက်တမ်း ပြည့်မြောက်သည့် ၂၅.၂.၂၀၁၈ ရက်နေ့တို့အနက် စောရာနေ့အထိ ဆောင်ရွက်ခွင့်ပြုသည်။ ခွင့်ပြုကာလပြည့်ပါက လုပ်ငန်းဆောင်ရွက်မှု အခြေအနေကို ထပ်မံညှိနှိုင်းပြီး ဆက်လက်ဆောင်ရွက်မည့် ကာလသတ်မှတ်၍ စာချုပ်ထပ်မံချုပ်ဆိုဆောင်ရွက်မည်။

လုပ်ငန်းအပ်နှံသူ

---------------------------------

အမည် - ဦးတင်မောင်ဦး

ရာထူး - ဦးဆောင်ညွှန်ကြားရေးမှူး

ဌာန - လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း

လုပ်ငန်းဆောင်ရွက်သူ

---------------------------------

အမည် - ဦးသန်းရှိန်

ရာထူး - ဥက္ကဌ

ဌာန - မီးလင်းရေးကော်မတီ ရေးမြို့

D:\Agreement\Update Yae Meelinyee\Yae Agreement (Five).Docx

<u>အသိသက်သေများ</u>

(၁)

---------------------------------

အမည် - ဒေါ်အေးအေးမြင့်

ရာထူး - အထွေထွေမန်နေဂျာ(ဘဏ္ဍာ)

ဌာန - လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း

(၂)

---------------------------------

အမည် - ဦးတင်ရှိန်

ရာထူး - အတွင်းရေးမှူး

ဌာန - မီးလင်းရေးကော်မတီ
ရေးမြို့

---------------------------------

အမည် - ဦးသက်ပိုင်မျိုး

ရာထူး - ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ

ဌာန - မွန်ပြည်နယ်၊ ရေးမြို့

---------------------------------

အမည် - ဦးနေမျိုးအောင်

ရာထူး - မြို့နယ်လျှပ်စစ်အင်ဂျင်နီယာ

ဌာန - လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း
ရေးမြို့

နောက်ဆက်တွဲ (ဂ)

အကြောင်းအရာ။ မြတ်သူရစက်မှုလက်မှု ကုမ္ပဏီလီမိတက်၏ ရေးမြို့နယ်သို့ လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချရေးနှင့် ပတ်သက်၍ လက်ရှိဆောင်ရွက်နေမှု အခြေအနေအား ရှင်းလင်းတင်ပြခြင်း။

၁။ မြတ်သူရစက်မှုလက်မှုကုမ္ပဏီလီမိတက်သည် မြို့မီးလင်းရေးကော်မီတီ နှင့် လုပ်ငန်းအပ်နှံသည့်စာချုပ်ချုပ်ဆိုခဲ့သည့် ၁၅-၁၁-၂၀၁၂ ခုနှစ်မှစတင်၍ ရေးမြို့နယ်၊ အစင်ကျေးရွာအနီး၌ ဒီဇယ်ဆီ Generatorများဖြင့် လျှပ်စစ်ဓာတ်အားပေးစက်ရုံကို တည်ဆောက်ခဲ့ပြီး ရေးမြို့နယ်သို့ (၂၄)နာရီပတ်လုံး လျှပ်စစ်ဓာတ်အားဖြန့်ဖြူးပေးခြင်းကို စတင်ဆောင်ရွက်ခဲ့ပါသည်။ ကုမ္ပဏီသည် အစင်းကျေးရွာအနီးရှိ ကုမ္ပဏီပိုင်မြေ(၁.၄၈)ဧကပေါ်တွင် မီးစက်ရုံတည်ဆောက်ပြီး ဒီဇယ်ဆီသုံး မီးစက်(၁၆)လုံး နှင့် Control Panel များကို အထိုင်ချတပ်ဆင်ခဲ့ပါသည် ၊ ၎င်းစက်ရုံနေရာမှ ရေးမြို့သို့ 11 KV ဓာတ်အားလိုင်းကို သွယ်တန်းခဲ့ပြီး Transformer (၃၂) လုံးကိုလည်း ဓာတ်အား လိုအပ်မှုအခြေအနေအရ တွက်ချက်၍ဖြန့်ခွဲတပ်ဆင်ခဲ့ပြီး လျှပ်စစ်ဓာတ်အားကို စတင်ဖြန့်ဖြူးပေးခဲ့ပါသည် ။ ထိုသို့ဖြန့်ဖြူးရောင်းချရာတွင် တစ်ယူနစ်လျှင် ၄၅၀/- နှုန်းဖြင့် ဒေသခံပြည်သူတို့အား ရောင်းချပေးပြီး အစိုးရ အဖွဲ့အစည်းများနှင့် ဌာနဆိုင်ရာများကို လျှော့ပေါ့သည့်နှုန်းဖြင့် ရောင်းချဖြန့်ဖြူးပေးခဲ့သည်။ မြို့လျှပ်စစ်မီးလင်းရေးရုံးကိုလည်း ရေးမြို့တွင်ဆောက်လုပ်ပြီး စီမံခန့်ခွဲမှုများကို လုပ်ဆောင်ခဲ့ပါသည်။ (မြို့မီးလင်းရေးကော်မီတီရုံး၊ အစင်လျှပ်စစ်မီးစက်ရုံ၊ Generator များ ၊ Control Panel များ နှင့် ရေးမြို့မီးဖြန့်ဝေ ပေးခြင်းတို့အား ဓါတ်ပုံများဖြင့် ပူးတွဲတင်ပြအပ်ပါသည်။)

၂။ ထိုသို့ ဒီဇယ် Generator (၁၆)လုံးဖြင့် နေ့စဉ် ၂၄ နာရီပတ်လုံး ဖြန့်ဖြူးပေးလျှက်ရှိသော်လည်း ထူထပ်လာသော မြို့ပြလူဦးရေအရေ၎င်း တိုးတက်လာသော လျှပ်စစ်ဓာတ်အားသုံးစွဲမှုများကြောင့်၎င်း လျှပ်စစ်အားလိုအပ်မှုသည်လည်း အစဉ်မြင့်တက်လျှက်ရှိပါသည် သို့ရာတွင် ကုမ္ပဏီ အနေဖြင့် ဒေသဖွံ့ဖြိုး တိုးတက်ရေးကို ဦးစားပေး၍ ရေးမြို့ပတ်ဝန်းကျင်ရှိ ကျေးရွာများမီးလင်းရေးအတွက် ဆက်လက်လုပ်ဆောင်ခဲ့သဖြင့် ကျေးရွာ(၇)ရွာကိုလည်း လျှပ်စစ်ဓာတ်အားဖြန့်ဖြူးပေးနိုင်ခဲ့ပါသည်။

၃။ မြင့်တက်လာသော စက်ဆီချောဆီဈေးနှုန်းများကြောင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်မှု 1 Unit Cost မှာလည်း တဖြေးဖြေးမြင့်တက်နေသည့်အတွက် လျှပ်စစ်မီးအပေါ်အခြေခံသည့် ထုတ်ကုန်များ၏ဈေးနှုန်းသည်လည်း မြင့်တက်နေပါသည် ၊သို့ပါ၍ကုမ္ပဏီအနေဖြင့် လျှပ်စစ်ဓာတ်အားကို ပိုမိုသက်သာသောနှုန်းထားဖြင့် ဖြန့်ဖြူးပေးနိုင်ရန်နှင့် လူတန်းစားအားလုံး လျှပ်စစ်ဓာတ်အားကို သက်သာသောနှုန်းဖြင့် သုံးစွဲနိုင်စေရန်ရည်ရွယ်ပြီး ဈေးနှုန်းသက်သာသော HFOဆီဖြင့်လည်းပတ်နိုင်မည့် Generatorများဝယ်ယူ၍ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးပေးရန်အတွက် ရင်းနှီးမြှုပ်နှံမှုကို ထပ်မံတိုးမြှင့်လုပ်ဆောင်သွားရန် ရည်ရွယ်ကြောင်း တင်ပြအပ်ပါသည် ။

အမည် ။ Than Shein

Managing Director

မှတ်ပုံတင်အမှတ် Myat Thura Industry Co., Ltd.

ကုမ္ပဏီ။

Myat Thura Industry Co.,Ltd.

Capital & Investment ( လက်ရှိလုပ်ငန်းလည်ပတ်ရင်းနှီးမြှုပ်နှံစာရင်း )

နောက်ဆက်တွဲ(ဂ)

| Sr | Paritcular | A/U | Qty | Price | | Total | | Grand Total |
|---|---|---|---|---|---|---|---|---|
| | | | | Kyat (000) | US $ | Kyat | US $ | (Equav: Kyat 000 ) |
| | **Generators** | | | | | | | |
| 1 | Gen Set CAT 1000 KVA | Set | 2 | 204,000 | | 408,000 | | |
| 2 | Gen Set CAT 1000 KVA | Set | 4 | 111,520 | | 446,080 | | |
| 3 | Gen Set CAMMIN 500 KVA | Set | 2 | 50,000 | | 100,000 | | |
| 4 | Gen Set CAMMIN 500 KVA | Set | 3 | 35,000 | | 105,000 | | |
| 5 | Gen Set CAMMIN 500 KVA | Set | 5 | 30,000 | | 150,000 | | |
| | **Total** | | **16** | | | **1,209,080** | | **1,209,080** |
| 6 | **Panel Control ( All together)** | **Set** | **1** | **81,600** | | **81,600** | | **81,600** |
| | Transformer | | | | | | | |
| 7 | 100 KVA | No | 14 | 4,000 | | 56,000 | | |
| 8 | 150/160 KVA | No | 5 | 5,200 | | 26,000 | | |
| 9 | 200 KVA | No | 4 | 5,900 | | 23,600 | | |
| 10 | 250 KVA | No | 1 | 6,600 | | 6,600 | | |
| 11 | 315 KVA | No | 4 | 7,800 | | 31,200 | | |
| 12 | 750 KVA | No | 2 | 23,000 | | 46,000 | | |
| 13 | 1600 KVA | No | 1 | 32,000 | | 32,000 | | |
| 14 | 3000 KVA | No | 1 | 45,000 | | 45,000 | | |
| | **Total** | | **32** | | | **266,400** | | **266,400** |
| | **Electricity Grid Line & Post** | | | | | | | |
| 15 | Electricity Posts (all type) | No | 3072 | | | 319,240 | | |
| 16 | Wire Cable & Accessories | | | | | 481,280 | | |
| | Total | | | | | 800,520 | | **800,520** |
| | **Vehicles** | | | | | | | |
| 17 | Crane Car | car | 2 | 20,000 | | 40,000 | | |
| 18 | Hydraulic Cup Car | car | 2 | 12,000 | | 24,000 | | |
| | **Total** | | | | | **64,000** | | **64,000** |
| | | | | | | | | |
| | **Grand Total** | | | | | | | **2,421,600** |

Than Shein
Managing Director
Myat Thura Industry Co., Ltd.

နောက်ဆက်တွဲ(ဂ)

# One line Diagram (ရေးမြို့)




Gen,Install - ( 17 ) Nos,( 8250 ) KVA
F1 Main TR 0.4 / 11 KV - ( 3000 ) KVA
F2 Main TR 0.4 / 11 KV - ( 750 ) KVA
F3 Main TR 0.4 / 11 KV - ( 1600 ) KVA
F1 TR 11 / 0.4 KV - ( 28 ) Nos, ( 3770 ) KVA
F2 TR 11 / 0.4 KV - ( 5 ) Nos, ( 560 ) KVA
F3 TR 11 / 0.4 KV - ( 8 ) Nos, ( 1220 ) KVA

Myat Thu Ra Industry Company Limited

မတည်ငွေရင်းနှင့် ရင်းနှီးမြှုပ်နှံမည့်စာရင်း

နောက်ဆက်တွဲ (က)

| Sr.No | Particular | US$ | Kyat | Equivalent Kyat (000) |
|---|---|---|---|---|
| | **Equity Capital** | | | |
| 1. | Cash | 0 | 100,000,000 | 100,000 |
| 2. | Land | 0 | 275,400,000 | 275,400 |
| 3 | Building | 0 | 473,200,000 | 473,200 |
| 4 | Machinery & Equipment | 4,326,000 | 2,725,600,000 | 8,608,960 |
| 5 | **Total** | 4,326,000 | 3,574,200,000 | 9,457,560 |

Remark – Exchange Rate 1 US$ = 1360/- Kyats

Depreciation is calculated at 10% straight line method on value of building and Machineries.

Than Shein
Managing Director
Myat Thura Industry Co., Ltd.

Myat Thura Industry Co.,Ltd.

Capital & Investment ( ထပ်မံရင်းနှီးမြှုပ်နှံမည့်စာရင်း )

နောက်ဆက်တွဲ (က)

| Sr | Paritcular | A/U | Qty | Price | | Total | | Grand Total |
|---|---|---|---|---|---|---|---|---|
| | | | | Kyat (000) | US $ | Kyat | US $ | (Equav: Kyat 000 ) |
| | **Generators & related accessories** | | | | | | | |
| 1 | Gen Set CAT 8 CM 25 (2.3 MW) | Set | 2 | | 2,163,000 | - | 4,326,000 | 5,883,360 |
| 2 | Panel Control ( All together) | Set | 1 | 272,000 | | 272,000 | | 272,000 |
| | **Vehicles** | | | | | | | |
| 3 | Crane Car | car | 1 | 20,000 | | 20,000 | | 20,000 |
| 4 | Hydraulic Cup Car | car | 1 | 12,000 | | 12,000 | | 12,000 |
| | **Grand Total** | | | | | | | 6,187,360 |

Exchange Rate 1 US$ = 1360 ks

Gen set တစ်မျိုးထဲသာ နိုင်ငံခြားမှ တင်သွင်းပါမည်

Than Shein
Managing Director
Myat Thura Industry Co., Ltd.

နောက်ဆက်တွဲ ( က )


ရေးမြို့ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးမှုပြပုံ
100 KVA
မင်းပညာကွင်း
ဘုန်းကြီးမြန်ကွင်း
50 KVA
200 KVA
ဝဲကာလီကွင်း
စကခ
(၁၉)
160 KVA
100 KVA
200 KVA
50 KVA
MPT
ဒီဇယ်ဓာတ်အားပေးစက်ရုံ
အစင်ကျေးရွာ
8250 KVA
100 KVA
200 KVA
315 KVA
100 KVA
315 KVA
ဝဲကျော်ကွင်း
100 KVA
50 KVA
MPT
ရည်ညွှန်းချက်
11/0.4 KV TR Install - (24) Nos,(3370)KVA (ရေးမြို့)
11KV ဓာတ်အားလိုင်း - (10.5) Miles
315 KVA ပြည်သူ့ဆေးရုံ(အထိုပြု)
အစင်ကျေးရွာဒီဇယ်ဓာတ်အားပေးစက်ရုံ (17) Nos,(8250)KVA

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
REPUBLIC OF THE UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း
REVENUE STAMP

၆၀၀ ကျပ် ခြောက်ရာကျပ် K 600

# "နှစ်ဦးသဘောတူ လုပ်ငန်းအပ်နှံသည့်သဘောတူစာချုပ်"

ရက်စွဲ ။ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာ လ ( ၁၅ )ရက်

ဤစာချုပ်သည် မြို့နယ်မီးလင်းရေးကော်မတီ၊ ရေးမြို့နယ်၊ မွန်ပြည်နယ်က ရေးမြို့သို့ လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရေးလုပ်ငန်း ဆောင်ရွက်ပေးရန်အတွက် မြတ်သူရစက်မှုလက်မှုကုမ္ပဏီလီမိတက်သို့ လုပ်ငန်းအပ်နှံသည့် သဘောတူစာချုပ်ဖြစ်ပါသည်။

နှစ်ဦးနှစ်ဘက်သည် အောက်ဖော်ပြပါစည်းကမ်းချက်များနှင့်အညီ လုပ်ငန်းအပ်နှံခြင်းနှင့် လက်ခံဆောင်ရွက်ရန်အတွက် သဘောတူညီကြပါသည် -

၁။ မြို့နယ်မီးလင်းရေးကော်မတီသည် ရေးမြို့နယ်သို့ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရောင်းချခြင်းအတွက် လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း၊ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ ခွင့်ပြုချက်ကို ရယူပေးရမည်။

၂။ လုပ်ငန်းဆောင်ရွက်မည့်အချိန်ကာလကို လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ ရေးမြို့သို့ လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးပေးသည့် အချိန်ထိသတ်မှတ်သည်

၃။ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရန်အတွက် လိုအပ်သည့်အလုံးစုံအရင်းအနှီးနှင့်လုပ်ငန်းဆောင်ရွက်ခြင်းကို မြတ်သူရကုမ္ပဏီမှ တာဝန်ယူဆောင်ရွက်ရန် သဘောတူပါသည်။ (ဓာတ်အားပေးစက်ရုံ၊ မီးလင်းရေးရုံး တည်ဆောက်ခြင်း ဓာတ်အားလိုင်းများသွယ်တန်းခြင်း၊ ဓာတ်အားဖြန့်ဖြူးခြင်း နှင့် ဓာတ်အားခ ကောက်ခံခြင်းလုပ်ငန်း အားလုံးကို ဆိုလိုသည်)

၄။ ဓာတ်အားခနှုန်းထား သတ်မှတ်ခြင်းကို မြတ်သူရကုမ္ပဏီသည် မီးလင်းရေးကော်မတီနှင့် ညှိနှိုင်းသဘောတူညီချက်ရယူရမည်။

၅။ သဘာဝအန္တရာယ်ကျရောက်မှုကြောင့် ပျက်စီးဆုံးရှုံးမှုများ ဖြစ်ပေါ်ခဲ့ပါက မီးလင်းရေးကော်မတီတွင် တာဝန်ရှိမည် မဟုတ်ကြောင်း မြတ်သူရကုမ္ပဏီမှ လက်ခံသဘောတူပါသည်။

၆။ တစ်လ(၁)ကြိမ်လုပ်ငန်း ညှိနှိုင်းအစည်းအဝေးကျင်းပပြုလုပ် ညှိနှိုင်းရန်သဘောတူညီပါသည်။

၇။ မြတ်သူရကုမ္ပဏီသည် လျှပ်စစ်ဓာတ်အားဖြန့်ဖြူးခြင်းလုပ်ငန်းကြောင့် သဘာဝပတ်ဝန်းကျင်များ ပျက်စီးမှု မရှိစေရေး ထိန်းသိမ်းဆောင်ရွက်ရန် တာဝန်ရှိကြောင်း သဘောတူညီပြီးပျက်စီးမှုများရှိခဲ့ပါကလည်း တာဝန်ယူပြန်လည် ပြုပြင်ပေးသွားပါသည်။

၈။ လုပ်ငန်း၏အမြတ်အစွန် တစ်စိတ်တစ်ပိုင်းကို ဒေသဖွံ့ဖြိုးရေးအတွက် ဆောင်ရွက်ပေးရန် မြတ်သူရကုမ္ပဏီမှ သဘောတူညီပါသည်။

(ပေးအပ်သူ)
ဦးတင်ရှိန်
အတွင်းရေးမှူး
ရေးမြို့မီးလင်းရေးအဖွဲ့
မွန်ပြည်နယ်၊ရေးမြို့

ဦး [illegible]
အဖွဲ့ဝင်
မ-လင်-ရေ

(လက်ခံသူ)
Than Shein
Managing Director
Myat Thura Industry Co., Ltd.

Director
Myat Thura Industry Co., Ltd.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
REPUBLIC OF THE UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၆၀၀ကျပ် ခြောက်ရာကျပ် K 600

CONTRACT AGREEMENT FOR SUPPLY OF
HFO POWER PLANT IN YAE
နှစ်ဦး သဘောတူ မီးစက်အရောင်းအဝယ်စာချုပ်

MSP TRACTORS LIMITED

CONTRACT NO.E&T/065/17
စာချုပ်အမှတ်- E&T/065/2017

စာချုပ်အမှတ်- E&T/065/2017 ရက်စွဲ ။ ၂၀၁၇- ခုနှစ်၊ မေလ (၂၅) ရက်။

This purchase contract is made in Yangon on the day 25th of May2017 for a sum amount Euro- 1,850,000 between Myat Thura Industry Co., Ltd and Myan Shwe Pyi Tractors Limited (MSPTL).

BUYER (ဝယ်ယူသူ)
Myat Thura Industry Co., Ltd

SELLER (ရောင်းချသူ)
Myan Shwe Pyi Tractors Limited (MSPTL)
No.16,Mya Mar Lar Lane,Industrial Zone,
Thaketa Township,Yangon,Myanmar.

PRODUCT DESCRIPTION

Caterpillar genset running with Diesel/HFO; 8 CM 25 series; 2.3 MW; 50 Hz @ 750 RPM; 11000 Volt.

SELLING PRICE & SALE TERMS
ပစ္စည်းဈေးနှုန်း နှင့် အရောင်းအဝယ်ပြုလုပ်သော Term & Conditions

Euro - 1,850,000 (Ex- Work Yangon and Including all taxes and duties )

(In Word: One Million Eight Hundred and Fifty Thousand Euro Only)
ယူရိုငွေ- တစ်သန်း ရှစ်သိန်း ငါးသောင်း တိတိ (အခွန်ပေးဆောင်ပြီး ရန်ကုန်ဆိပ်ကမ်းအရောက်ဈေးနှုန်းဖြစ်ပါသည်)

၁။ ပစ္စည်းအမျိုးအမည် / အရေအတွက် / ဈေးနှုန်း

| No. | Description | Quantity | Unit Price (EURO) | Sales Terms |
|---|---|---|---|---|
| 1. | Caterpillar genset running with Diesel/HFO ;8 CM 25 series;2.3 MW; 50Hz @750RPM;11000 Volt<br>ဒီဇယ်/HFO နှင့် မောင်းနှင်နိုင်ပြီး စက်ပတ်ရည် 750၊ 50HZ , 11,000 volt အခြေအနေတွင် 2.3 MW ထွက်ရှိသော Cat CM25 series မီးစက် | 1 | 1,850,000/- | Ex-Work Yangon and Including all taxes and duties |

Remark:

Price for turnkey power plant will be defined within (6-8 weeks) after singing the contract. Balance of plant agreement will be defined by a separate contract.
မှတ်ချက်။ ။စာချုပ်ချုပ်ဆိုပြီး ၆ပတ်မှ၈ပတ်အတွင်း ဓာတ်အားထုတ်စက်ရုံအတွက် အထက်ပါစာချုပ်တွင် မပါဝင်သော အခြား လိုအပ်မည့် ဆက်စပ်ပစ္စည်းများအတွက် ဈေးနှုန်းအား အတည်ပြုသတ်မှတ်မည်ဖြစ်ပါသည်။ ကျန်ရှိသော သဘောတူညီချက်များ အား သီးခြားစာချုပ်ဖြင့် သတ်မှတ်မည်ဖြစ်ပါသည်။

TECHNICAL SPECIFICATION AND SCOPE OF SUPPLY
Technical specification is as mentioned in attached. This agreement refers to gen sets scope of supply only.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
REPUBLIC OF THE UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း
REVENUE STAMP

၆၀၀ကျပ် ငွေခြောက်ရာကျပ် K 600

၁။ စက်နှင့်ပတ်သက်သော အချက်အလက်နှင့် ပါဝင် ပစ္စည်းများ

စက်နှင့်ပတ်သက်သော အသေးစိတ်အချက်အလက်များအား ပူးတွဲပါစာရွက်တွင် အသေးစိတ် ပြထားပါသည်။ ယခုစာချုပ်သည် မီးစက်ကြီး နှင့် စာချုပ်တွင်ပါဝင်သော အချို့သော ဆက်စပ်ပစ္စည်းများအတွက်ဖြစ်ပါသည်။

MSP TRACTORS LIMITED

II. SCOPE OF SUPPLY LIMIT

As specified in the drawings attached number 03C0825-C-000-PAOO-55_01 and 03C0825-C-100-PAOO-55_01 (At the moment, only one genset from Dwg). Other drawings attached are part of the power plant project. (buildings to be built by the customer; MSPTL will provide lay out and general plan of the building)

၂။ ပါဝင်ပစ္စည်းများ၏ ကန့်သတ်ချက်များ

မီးစက်နစ်လုံးပါဝင်သော ဓာတ်အားပေးစက်ရုံ နမူနာပုံစံအား ပူးတွဲပါစာရွက် (03C0825-C-000-PAOO-55_01 and 03C0825-C-100-PAOO-55_01)တွင် ဖော်ပြထားပါသည်။ လက်ရှိအချိန်တွင် ဝယ်ယူသူသည် မီးစက်တလုံးတည်းအတွက်သာ စဉ်းစားမည်ဖြစ်ပါသည်။ ဓာတ်အားပေးစက်ရုံ အဆောက်အဦးအား ဝယ်ယူသူမှ ဆောက်လုပ်ရမည်ဖြစ်ပြီး ရောင်းချသူမှ အဆောက်အဦးနှင့်ပတ်သက်သော ယေဘူယျအချက်အလက်များအား အကြံပြုပေးပို့မည်ဖြစ်ပါသည် ။

III. TERMS OF PAYMENT

Buyer shall arrange to pay seller as follows:

- 10% - Immediately upon sigining the contract in order for Seller to proceed with final engineering preparatory work.
- 20%- Within (3) weeks after sigining the contract.
- 30% Bank Guarantee – Within (3) weeks after signing the contract concurrently with the 20% payment. Upon receipt of this 20% and Bank Guarantee, MSPTL will immediately place the order to Caterpillar
- 10% - Will be paid at ready to ship from the factory (Germany).
- 40 %- Will be paid before release the Genset at at Yangon port to customer. After receiving this 40% payment, MSPTL will give back the Bank Guarantee to the Buyer.
- 20%- Will be paid not later than 180 days from delivery at Yangon port unless the delay is caused by MSPTL

၃။ ငွေပေးချေမှုစနစ်

(က) စာချုပ်တန်ဖိုး၏10% အား စာချုပ်ချုပ်ဆိုသည့်နေ့တွင် ဝယ်ယူသူမှ လက်ငင်းပေးချေရန် သဘောတူညီပါသည်။

(ခ) စာချုပ်တန်ဖိုး၏20% အား စာချုပ်ချုပ်ဆိုပြီး ရက်သတ္တပတ် (၃ )ပတ်အတွင်း ဝယ်ယူသူမှ ပေးချေရန်သဘောတူညီပါသည်။

(ဂ) စာချုပ်တန်ဖိုး၏ 30% နှင့် ညီမျှသော Bank Guarantee အား စာချုပ်ချုပ်ဆိုပြီး ရက်သတ္တပတ် (၃' 'အတွင်း ဝယ်ယူသူမှ ပေးရန် သဘောတူညီပါသည်။ အဆိုပါ 20% ငွေပေးချေမှု နှင့် 30% Bank Guarantee အား လက်ခံရရှိသ_ ့တွင် Myan Shwe Pyi Tractors Ltd (ရောင်းချသူ) မှ CATERPILLAR စက်ရုံသို့ ကုန်အမှာစာပေးပို့မည်ဖြစ်ပါသည်။

(ဃ) စာချုပ်တန်ဖိုး၏10% အား GERMANYရှိစက်ရုံမှသင်္ဘောတင်ရန် အဆင်သင့်ဖြစ်သောအချိန်တွင် ဝယ်ယူသူမှ ပေးချေရန်သဘောတူညီပါသည်။

(င) စာချုပ်တန်ဖိုး၏ 40% အား ရန်ကုန်ဆိပ်ကမ်းသို့ ပစ္စည်းရောက်ရှိပြီး ဝယ်ယူသူထံသို့ ပစ္စည်းမလွှဲပြောင်းမီ ပေးချေရန်သဘောတူညီပါသည်။ အဆိုပါ 40% ငွေပေးချေမှုအား လက်ခံရရှိသည့်နေ့တွင် Myan Shwe Pyi Tractors Ltd(ရောင်းချသူ) မှ 30% Bank Guarantee အား ဝယ်ယူသူထံသို့ပြန်လည်ပေးအပ်ရန်သဘောတူညီပါသည်။

(စ) စာချုပ်တန်ဖိုး၏ 20% အား ရန်ကုန်ဆိပ်ကမ်းမှ ဝယ်ယူသူထံသို့ ပစ္စည်းလွှဲပြောင်းပြီး ရက်ပေါင်း(၁၈၀) အတွင်း ဝယ်ယူသူမှ ပေးချေရန်သဘောတူညီပါသည်။

IV. DELIVERY SCHEDULE

- Lead time for Final Engineering Process (BOP): 2 months (can be in parallel with factory lead time) after sigining the contract
- Lead time from order to ready to ship form factory (Germany): 6 months;

- Transportation of gen set from Germany to Yangon: approximately 2 months; Lead time for other components (BOP): below 6 months
- Installation at site; approximately 2 months
- Start up and final tests: 2 weeks
- Total lead time from firm order to final delivery to customer: 11 months (Estimated)

MSP TRACTORS LIMITED

၄။ ပစ္စည်းသယ်ယူပို့ဆောင်မည့် အချိန်ဇယား

- Final Engineering Process ,Balance of the plant (BOP):
  တတ်အားထုတ်စက်ရုံအတွက် အထက်ပါ စာချုပ်တွင်မပါဝင်သော အခြားလိုအပ်မည့် ဆက်စပ်ပစ္စည်းများအတွက် အသေးစိတ်ပစ္စည်းစာရင်း နှင့် ထပ်မံလိုအပ်မည့် ကျန်ကျစရိတ်ကို စာချုပ်ချုပ်ဆိုပြီး (၂)လအတွင်း ရောင်းချသူမှ ဝယ်ယူသူထံသို့ပို့ပေးမည်ဖြစ်ပါသည်။
- CATERPILLAR စက်ရုံသို့ ကုန်အမှာစာပေးပို့ပြီးသည့်နေ့မှ သင်္ဘောတင်ရန် အဆင်သင့် ဖြစ်သော အချိန် - (၆) လ
- GERMANY စက်ရုံမှ ရန်ကုန်ဆိပ်ကမ်းသို့ သင်္ဘောစုတ်မောင်းကာလ - (၂)လ
- Other Components, Balance of the plant (BOP): (၆)လအတွင်း
- Installation at Site : ခန့်မှန်းကာလ - (၂)လ
- စက်စတင်မောင်းနှင်ပြီး လုပ်ငန်းအပ်နှံခြင်း - ရက်သတ္တပတ် (၂)ပတ် အတွင်း
- ကုန်အမှာစာပေးပို့ပြီး ဝယ်ယူသူထံသို့ လုပ်ငန်းအပ်နှံသည်အထိ စုစုပေါင်း ကြာမြင့်မည့်ကာလ - (၁၁) လ

V. WARRANTY

All material is covered by a 12 month warranty, which starts from the date of initial start-up. Start-up must take place within 6 months.

၅။ အာမခံပေးခြင်း

မီးစက်အတွက် အာမခံသက်တမ်းကာလမှာ စမ်းသပ်လည်ပတ်ပြီးနောက် (၁၂)လတိတိဖြစ်ပါသည်။ ဝယ်ယူသူထံသို့မီးစက်များ ရောက်ရှိပြီး (၆) လအတွင်း စက်စတင်မောင်းနှင်ရန် သဘောတူညီပါသည်။

VI. MANUFACTURER

CATERPILLAR, Peoria, Illinois, USA

၆။ ပစ္စည်းထုတ်လုပ်သူ

CATERPILLAR, Peoria, Illinois, USA

VII. SCOPE OF SUPPLY ( MSPTL )

၇။ ရောင်းချသူ ၏ တာဝန်များ

- Engineering
- Project management
  လုပ်ငန်း စီမံခန့်ခွဲမှု
- Procurement of all goods and parts (BOP) upon agreement
  တတ်အားထုတ်စက်ရုံအတွက် အထက်ပါစာချုပ်တွင် မပါဝင်သောအခြားလိုအပ်မည့် ဆက်စပ်ပစ္စည်းများ အတွက် အသေးစိတ်ပစ္စည်း အတွက် ဝယ်ယူရာတွင် အကူအညီပေးခြင်း
- Supervision for proper Installation
  စက်ပစ္စည်းများအား တပ်ဆင်ရာတွင် မှန်ကန်မှုရှိစေရန် ကြီးကြပ်ခြင်း
- Start up and commissioning
  စမ်းသပ်မောင်းနှင်ခြင်း
- All engineering documentations (mechanical & electrical)
  Mechanical & Electrical နှင့်ပတ်သက်သော စာရွက်စာတမ်းများ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
REPUBLIC OF THE UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၆၀၀ကျပ် ခြောက်ရာကျပ် K 600

MSP TRACTORS LIMITED.

VIII. OUT OF SCOPE

၈။ ဝယ်ယူသူ ၏ တာဝန်များ

- Buildings works
  အဆောက်အဦး ဆောက်လုပ်ခြင်း
- Civile Engineering, Mechnical and Electrical Installation
  ဆောက်လုပ်ရေး နှင့် သယ်ယူပို့ဆောင်ရေး အတွက် လိုအပ်သော လုပ်ငန်းများ ၊ စက်မှုနှင့် လျှပ်စစ် တပ်ဆင်ခြင်းလုပ်ငန်းများ ၊
- Room/structure for housing the cogeneration plant
  ဓာတ်အားပေးအဆောက်အဦး ဆောက်လုပ်ခြင်း
- Everything not expressly detailed in this quotation
  စာချုပ်တွင်မပါဝင်သော အချက်အလက်များ
- Transportation from Yangon port to customer site
  ရန်ကုန်ဆိပ်ကမ်းမှ ဓာတ်အားပေးစက်ရုံရှိရာ နေရာသို့ သယ်ယူခြင်း

IX. COMING INTO FORCE

IX.a This contract shall come into force when signed by both parties, duly authenticated by witnesses.
ယခုစာချုပ်သည် သက်သေများ၏ရှေ့တွင် နှစ်ဦးသဘောတူညီမှုရရှိ၍ လက်မှတ်ရေးထိုးချိန်မှစ၍အသက်ဝင်ပါသည်။

IX.b In witness whereof, the parties hereunto set their respective hands and seals the day, month and year first above written.
အထက်ပါစာချုပ်တွင်ပါဝင်သော အကြောင်းအရာများကို ဖတ်ရှုနားလည်သိရှိပြီး သက်သေများ၏ရှေ့တွင် နှစ်ဦးသဘောတူလက်မှတ်ရေးထိုးကြပါသည်။

BUYER
ဝယ်ယူသူ

..............................
Signature

Name Than Shein
NRC No. Managing Director
Occupation: [illegible] Thura Industry Co., Ltd.

Address :

SELLER
ရောင်းချသူ

..............................
Signature

Name : Tin Maung Win
NRC No. : 12/Ya Ka Na (N)- 018314
Occupation : General Manager-E&T Division
Myan Shwe Pyi Tractors Limited (MSPTL)
Address : No.16,Mya Mar Lar Lane,Ind: Zone,
Thaketa Township,Yangon,Myanmar.

IN THE PRESENCE OF

..............................
Signature

Name :Hto Hmaing
NRC No. 10/YAMANA [illegible]

..............................
Signature

Name : Kyaw Kyaw Win
NRC No. : 12/Ba Ha Na(N)-077833

ပုံစံ (၃၃)

နည်းဥပဒေ (၈၃)

လယ်ယာမြေကို သတ်မှတ်သည့်နည်းလမ်းအတိုင်းအသုံးချရန်ဆင့်ဆိုသည့်အမိန့်

မွန်ပြည်နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီသည် ၁၉၅၃ ခုနှစ် လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေး အက်ဥပဒေပုဒ်မ (၃၉)ဖြင့်အပ်နှင်းထားသည့်အာဏာများကိုသုံးစွဲလျက်အောက်ပါဇယားတွင်ဖော်ပြ ထားသောလယ်ယာမြေကို ဇယားကွက် (၈)၌ဖော်ပြသည့်နည်းလမ်းအတိုင်း အသုံးချရမည်ဟု - မွန်ပြည်နယ် ၊ ဂျ နံကု န်မြို့၊ ဒေ‌ြ ၁ ၆ ဖန်း ဒိ မ် ယ ၁ နေ ဦး သ န်း ရှိ န်အ ၁း ဆင့်ဆိုလိုက်သည်-

| ပြည်နယ် | မြို့နယ် | ကျေးရွာ/ရပ်ကွက် | ကွင်း | | ဦးပိုင် | | အသုံးချရမည့်နည်းလမ်း | အကြောင်းအရာ |
|---|---|---|---|---|---|---|---|---|
| | | | အမည် | အမှတ် | အမှတ် | ကေ | | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| မွန် | ရေး | ဒူး ယ ၁း | မ ပို င် | ၁ ၁ ၅ ၇ | - | ၁ . ၄ ၀ | အအေး ခန်း ရှင့်ရေ ခဲ စက် ဆို့မြေ | မြေ လွတ် |
| | | | | စုစု ပေါင်း | | ၁ . ၄ ၀ | | |

တ်ချက်။ (၁) ဤဇယားတွင်ဖော်ပြသောလယ်ယာမြေကို မြေစာရင်းဌာနတွင် ---- ၁ က် ဆို့ မြေ ---------- မြေ အဖြစ်ပြောင်းရန် ၁၉၅၄ ခုနှစ် လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးနည်းဥပဒေ (၈၄)အရ ခွင့်ပြုသည်။

(၂) ဇယားကွက် (၈)၌ဖော်ပြသည့်နည်းလမ်းအတိုင်း လယ်ယာမြေကိုအသုံးမချလျှင် ဤအမိန့်ကို အက်ဥပဒေပုဒ်မ (၃၅)အရပယ်ဖျက်မည်ဖြစ်သည့်အပြင် ဤအမိန့်ကိုလိုက်နာရန်ပျက်ကွက်သူသည် အက်ဥပဒေပုဒ်မ (၄၈) အရ ပြစ်ဒဏ်ချမှတ်ခြင်းခံရမည်၊

(၃) အထက်ဖော်ပြပါဦးပိုင်အမှတ်နှင့်ဧရိယာများကို---- ၂၀၀၂ - ၂၀၀၃ ---------- ခုနှစ်၊ နောက်ဆက်တွဲမြေပုံနှင့်စာရင်းများမှကောက်နုတ်သုံးစွဲသည်။

ဥ ဏ္ဍ ဦး (ကိုယ်စား)

(ဒုတိယဗိုလ်မှူးကြီးအောင်မော်မော် - အတွင်းရေးမှူး)

အမှတ်၊ ၄၀၀ / ၂ - ၃ / ပ ယ က (မွန်)

ရက်စွဲ၊ ၂၀၀၃ ခုနှစ် မွ န် လ ၁၈ ရက်

မိတ္တူကို

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ရန်ကုန်မြို့

ညွှန်ကြားရေးမှူးချုပ်၊ ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန၊ ရန်ကုန်မြို့

ဥက္ကဋ္ဌ၊ ခရိုင်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ မော်လမြိုင်/ ဆိုင်

ဥက္ကဋ္ဌ၊ မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ___ ရေး ___ မြို့

သက်ဆိုင်ရာ လ/န (၃၉)အမှုတွဲအမှတ် ၂၃/[illegible]/[illegible]-၂၀၀၃ ___ နှင့်အတူ

ဒုတိယညွှန်ကြားရေးမှူး၊ ပြည်နယ်မြေစာရင်းဦးစီးဌာန၊ မွန်ပြည်နယ်၊ မော်လမြိုင်မြို့

မြို့နယ်မြေစာရင်းဦးစီးဌာနမှူး ___ ရေး ___ မြို့

မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ___ ရေး ___ မြို့နယ်မှတစ်ဆင့်

ဥက္ကဋ္ဌ၊ ___ အူး ယ ား ___ ကျေးရွာ/ရပ်ကွက်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ

___ ရေး ___ မြို့ထံ သိသာရန်နှင့်လိုအပ်သလိုဆောင်ရွက်ရန် ပေးပို့ပါသည်။

✓ ဦး သန်း ငြိန် ( ကျောက်တား သူ ) ဘော ၁ ၀ ... နီး ဒိ စ် ယ ၁၊ ရန်ကုန်မြို့

သက်သေခံ မြေပုံ (၁)ပုံပူးတွဲလျက်

...ဟ်တမ်းစာတွဲ

...ျောစာတွဲ

...းလက်ခံစာတွဲ

# မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပ

## မြတ်သူရစက်မှုလက်မှုကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖❖❖❖❖❖

၁။ ကုမ္ပဏီ၏ အမည်သည် မြတ်သူရစက်မှုလက်မှုကုမ္ပဏီလီမိတက် ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်အလုပ်တိုက်သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ၏ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာတစ်ဖက်စာမျက်နှာပါအတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကိုကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀,၀၀၀,၀၀၀/-( ကျပ်သန်းငါးရာတိတိ ) ဖြစ်၍ ငွေ ၁၀,၀၀၀/-(ကျပ်တစ်သောင်းတိတိ) တန်အစုရှယ်ယာပေါင်း ( ၅၀၀၀၀ )ခွဲထားသည်။ ကုမ္ပဏီ၏ ရင်းနှီး ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များ နှင့် အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာ ရှိစေရမည်။

၁။ နိုင်ငံတော်အစိုးရကခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့်ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်း ဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်း နှင့် ကုန်ထုတ်လုပ်ခြင်း။

(ခ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊

(ဂ) ရေထွက်ကုန်ပစ္စည်းများအားဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်း နှင့် ပြုပြင်ထုတ်လုပ်ခြင်း၊

(ဃ) ခါတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊

၂။ အထက်ဖော်ပြပါလုပ်ငန်းများတွင် လိုအပ်သည့်စက်ကရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊ တစိတ်တဒေသ ကုန်ချောများ ကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်။

၃။ ကုမ္ပဏီမှသင့်လျော်လျှောက်ပတ်သည်ဟုယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက်တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များကခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင်ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလအားလျော်စွာတည်မြဲနေသည့်တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့်လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကိုဆောင်ရွက်မည်ဟုခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နေရပ် နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ဖော်ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်ကြသူများ၏ အမည်၊ နေရပ်လိပ်စာ နှင့် အကြောင်းအရာ | နိုင်ငံသား၊ အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးသန်းရှိန်<br>အမှတ်-၆/၃၀၅-၃၀၇၊ ညောင်တန်းအိမ်ရာ၊<br>ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။<br>( ကုန်သည် ) | မြန်မာ<br>၁၀/ရမန(နိုင်)<br>၀၃၉၈၈၁ | | |
| | ဒေါ်စန်းစန်းဝင်း<br>အမှတ်-၆/၃၀၅-၃၀၇၊ ညောင်တန်းအိမ်ရာ၊<br>ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။<br>( ကုန်သည် ) | မြန်မာ<br>၁၀/ရမန(နိုင်)<br>၀၂၅၄၅၉ | | စန်းစန်းဝင်း |
| ၃။ | ဒေါ်လွင်လွင်သန်း<br>အမှတ်-၆/၃၀၅-၃၀၇၊ ညောင်တန်းအိမ်ရာ၊<br>ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။<br>( ကုန်သည် ) | မြန်မာ<br>၁၀/မလမ(နိုင်)<br>၁၀၄၃၀၄ | | |
| ၄။ | ဦးမင်းမြတ်နိုင်<br>အမှတ်-၆/၃၀၅-၃၀၇၊ ညောင်တန်းအိမ်ရာ၊<br>ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။<br>( ကုန်သည် ) | မြန်မာ<br>၁၀/မလမ(နိုင်)<br>၁၂၅၇၀၆ | | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၅ ခုနှစ်၊ လ၊ ရက်နေ့။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင်လက်မှတ်ရေးထိုးကြပါသည်။

U Than Soe Linn (B.Com(Q) C.P.A)
Certified Public Accountant & Auditor
No.153, 1st-Floor, 47th Street, Botataung T/S Yangon.
[illegible] 292383/095010151

ဦးသန်းစိုးလင်း ( B.Com (Q), C.P.A )
လက်မှတ်ရပြည်သူ့စာရင်းကိုင်၊ စာရင်းစစ်
အမှတ် ၁၅၃၊ ပထမထပ်(ယာ)၊ ၄၇ လမ်း၊
ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ ( ဖုန်း-၂၉၂၃၈၃ )

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့်ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်၊ ကွယ်လွန်သွားသော အစုရှယ်ယာရှင် တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများကအသိအမှတ်ပြုပေးရမည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့်အကြိမ်တိုင်းအတွက် ဒါရိုက်တာများကသတ်မှတ်သည့်ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်နေရာနှင့်အချိန်တွင် ပေးသွင်းစေရန်တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများကသတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ်အစည်းအဝေးက တစ်စုံတစ်ရာသတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက် သည် ( ၂ ) ဦးထက် မနည်း ( ၁၀ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်–

(၁) ဦးသန်းရှိန်
(၂) ဒေါ်စန်းစန်းဝင်း
(၃) ဒေါ်လွင်လွင်သန်း
(၄) ဦးမင်းမြတ်နိုင်
(၅) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သောသတ်မှတ်ချက်များ၊ ဥာက်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများအားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သောအရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာ အနည်းဆုံး ( - ) စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ပုဒ်မ ၈၅ ပါပြဋ္ဌာန်းချက်များကို လိုက်နာရန်တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများလွှဲပြောင်းရန်တင်ပြချက်ကို မည်သည့်အကြောင်းပြချက်မျှမပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့ ၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆိုပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်စေရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏အစည်းဝေးကို မည်သည့်ဒါရိုက်တာက မဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၄င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

